ရမည်။ ပေးဆောင်ရမည့် မြေငှားရမ်းခကို ကုမ္ပဏီမှ ၁၂-၆-၂၀၁၁ ရက်နေ့ အစည်းအဝေးတွင်တင်ပြထားသောစက်သုံးဆီသိုလှောင်ခြင်း၊ ဖြန့်ဖြူးခြင်းလုပ်ငန်းများစတင်ဆောင်ရွက်ရန် လျာထားသည့် (၁-၁-၂၀၁၃)ရက်နေ့မှ စတင်ပေးချေရမည်-

ကျောထောက်နောက်ခံမြေနေရာအတွက်မြေငှား =ကျပ် ၁၃,၃၅၆,၇၅၇/- ရမ်းခ (၂၄. ၇၁ ဧက x ၅၄၀,၅၄၀. ၅၄/-)

## အပိုဒ်-၇။ လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ တာဝန်များ

၇။ "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ၏ တာဝန်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" သည် ဤပဋိညာဉ်စာချုပ် အလို့ငှာ သက်ဆိုင်ရာ အာဏာပိုင်အဖွဲ့အစည်းများထံမှ လိုအပ်သောခွင့်ပြုချက်များရရှိစေရန် တတ်နိုင်သမျှ ကူညီဆောင်ရွက်ပေးရမည်။

(ခ) "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" သည် "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" အား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်အညီ ဝင်ငွေခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များရရှိစေရန် တတ်နိုင်သမျှ ကူညီဆောင်ရွက်ပေးရမည်။

(ဂ) "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" သည် ဤပဋိညာဉ်စာချုပ် ပုဒ်မခွဲ(၂)တွင် ဖော်ပြထားသည့် လုပ်ငန်းများကို "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"မှ "ငှားရမ်းသည့်မြေ"ပေါ်တွင် ငြိမ်သက်စွာနှင့် အေးငြိမ်းစွာ ဝင်ရောက်၍ လုပ်ငန်းဆောင်ရွက် စီမံခန့်ခွဲနိုင်ခွင့်ပြုရမည်။

## အပိုဒ်-၈။ လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ၏ တာဝန်များ

၈။ "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" ၏ တာဝန်များမှာ အောက်ပါအတိုင်းဖြစ်သည်-

(က) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် ဤပဋိညာဉ်စာချုပ် အပိုဒ်(၅)နှင့်အပိုဒ်(၆) ပါ သတ်မှတ်ချက်အတိုင်း မြေအသုံးချမှုပရီမီယံကြေးနှင့် လစဉ်မြေငှားရမ်းခများကို "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ထံ ပေးသွင်းရမည်။

(ခ) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် ၂၀၁၃ ခုနှစ်၊ ဒီဇင်ဘာလကုန်တွင် ဆိပ်ခံတံတားနှင့် အထောက်အကူပြုအဆောက်အအုံများ ဆောက်လုပ်ခြင်းလုပ်ငန်းကို ၅၀ % ကျော်ပြီးစီးရမည်။ ၂၀၁၄ ခုနှစ်၊ ဒီဇင်ဘာလကုန်တွင် ဆောက်လုပ်ခြင်း

လုပ်ငန်းအားလုံး ပြီးစီးရမည်ဖြစ်ပြီး၊ ၂၀၁၅ ခုနှစ်၊ ဇန်နဝါရီ (၁) ရက်နေ့မှစ၍ လုပ်ငန်းများ စတင်ဆောင်ရွက်ရမည်။

(ဂ) **"လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"** သည် ပူးတွဲ(၂) ပါ လုပ်ငန်းစီမံကိန်း ဖော်ပြချက်များ အရ၊ သတ်မှတ်ထားသော စံနှုန်းများနှင့်အညီ စက်သုံးဆီသိုလှောင်ကန်များနှင့် အထောက်အကူပြု အဆောက်အအုံများကို သတ်မှတ်ကာလအတွင်း ပြီးမြောက်အောင် ဆောက်လုပ်ရမည်။

## အပိုဒ်-၉။ ရင်းနှီးမြှုပ်နှံမှုကုန်ကျစရိတ်

၉။ **"ကောင်းမြန်မာအောင်စက်သုံးဆီသိုလှောင်ဖြန့်ဖြူးရေးစီမံကိန်း"** အတွက် တည်ဆောက်ရေးလုပ်ငန်းများ၏ ခန့်မှန်းကုန်ကျစရိတ်မှာ **ပူးတွဲ(၃)**ဖြင့် ဖော်ပြထားသည့်အတိုင်း ရင်းနှီးမြှုပ်နှံလျှက် စုစုပေါင်းရင်းနှီးမြှုပ်နှံမှုပမာဏမှာ ပြည်တွင်းသုံးငွေ ကျပ် ၁၀,၂၃၁/-(ကျပ် တစ်သောင်းနှစ်ရာ သုံးဆယ့်တစ်သန်း) ခန့် ဖြစ်သည်။

## အပိုဒ်-၁၀။ တည်ဆောက်ရေးကာလ

၁၀။ "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည်**"ကောင်းမြန်မာအောင်စက်သုံးဆီသိုလှောင်ဖြန့်ဖြူးရေးစီမံကိန်း"** ကို အောက်ပါလုပ်ငန်း စီမံကိန်းအဆင့်အလိုက် တည်ဆောက်သွားရန်ဖြစ်သည်-

(က) **"ကောင်းမြန်မာအောင်စက်သုံးဆီသိုလှောင်ဖြန့်ဖြူးရေးစီမံကိန်း"** ပါ တည်ဆောက်ရေးလုပ်ငန်းများကို ၂၀၁၄ ခုနှစ်၊ ဒီဇင်ဘာလကုန်တွင် အပြီးဆောင်ရွက်ရမည်။

(ခ) **"ကောင်းမြန်မာအောင်စက်သုံးဆီသိုလှောင်ဖြန့်ဖြူးရေးစီမံကိန်း"** ပါ တည်ဆောက်ရေးလုပ်ငန်းများကို မမျှော်မှန်းထားခဲ့သည့် အကြောင်းတစ်စုံ တစ်ရာကြောင့် သတ်မှတ်ကာလအတွင်း တည်ဆောက်မှုလုပ်ငန်းများမပြီးပြတ်ပါက တည်ဆောက်ရေးကာလ သက်တမ်းတိုးမြှင့်မှုကို နှစ်ဦးနှစ်ဖက်ညှိနှိုင်းပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏အတည်ပြုချက်ဖြင့် သက်တမ်းတိုးမြှင့်၍ ဆောင်ရွက်ရမည်။

## အပိုဒ်-၁၁။ လုပ်ငန်းအကောင်အထည်ဖော်ရန် တာဝန်ယူသည့် ဘဏ်အာမခံ

၁၁။ "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် ဤပဋိညာဉ်စာချုပ် ချုပ်ဆိုပြီးနောက် ရက်ပေါင်း ၄၅ (လေးဆယ့်ငါး)ရက်အတွင်း ပူးတွဲ(၄)တွင် သတ်မှတ်ထားသောပုံစံများဖြင့် ကြိုတင်စည်းကမ်းချက်များမရှိသည့် ပြန်လည်ရုတ်သိမ်းနိုင်ခွင့်မရှိသော လုပ်ငန်းအကောင်အထည်ဖော်ရန် တာဝန်ယူသည့် ဘဏ်အာမခံဖြစ်သော ဤပဋိညာဉ်စာချုပ်၏ အပိုဒ်(၉)တွင် ဖော်ပြထားသည့် ခန့်မှန်းရင်းနှီးမြှုပ်နှံမှုကုန်ကျစရိတ်၏ ၁(တစ်)ရာခိုင်နှုန်းနှင့်ညီမျှသော ငွေပမာဏကို "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"အမည်ဖြင့် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်းရှိ တရားဝင်ခွင့်ပြုထားသော

အစိုးရဘဏ်တစ်ခုခုတွင်ထားရှိ၍ အဆိုပါဘဏ်အာမခံကို "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ထံသို့ ထုတ်ပေးရမည်။ အဆိုပါ ဘဏ်အာမခံ၏သက်တမ်းသည် စတင်ထုတ်ပေးသည့်နေ့မှ ၂(နှစ်)နှစ် အထိတည်ရှိစေရမည်။ "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"သည်စာချုပ်လက်မှတ်ရေးထိုးပြီး အပိုဒ်(၁၀) ပါ သတ်မှတ် တည်ဆောက်ရေးကာလအတွင်း **"ကောင်းမြန်မာအောင်စက်သုံးဆီ သိုလှောင်ဖြန့်ဖြူး ရေးစီမံကိန်း"** လုပ်ငန်းပါအဆောက်အအုံများကို အပြီးဆောက်လုပ်ရန်အပါအဝင် စာချုပ်စည်း ကမ်းများကို လိုက်နာရန်ပျက်ကွက်ပါက ဘဏ်အာမခံငွေကို **"လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"** က သိမ်းယူရမည်။

## အပိုဒ်-၁၂။ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် စီမံအုပ်ချုပ်ခြင်း

၁၂။ **"လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"** သည် လုပ်ငန်းဆောင်ရွက်ခြင်းနှင့် စီမံအုပ်ချုပ်ခြင်းအလို့ငှာ အောက်ပါအတိုင်း လိုက်နာဆောင်ရွက်ရမည်-

(က) **"ကောင်းမြန်မာအောင်စက်သုံးဆီသိုလှောင်ဖြန့်ဖြူးရေးစီမံကိန်း"** ပါ တည်ဆောက် ရေးလုပ်ငန်းများကို ပဋိညာဉ်စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှ အပိုဒ်(၁၀)ပါ သတ်မှတ်ကာလအတွင်း အပြီးတည်ဆောက်၍ လုပ်ငန်းဆောင်ရွက်ရမည်။

(ခ) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် လုပ်ငန်းနှင့်ပတ်သက်သောစာရင်းစာအုပ်များ ကို စနစ်တကျပြုစုပြီး၊ ၎င်းတို့ကို ရန်ကုန်မြို့တွင်ရှိ ကုမ္ပဏီရုံးတွင်ဖြစ်စေ၊ ၎င်း၏ စာရင်းကိုင်ရုံးတွင်ဖြစ်စေ၊ စနစ်တကျထိန်းသိမ်းထားရှိရမည်။ ဖော်ပြပါစာရင်း များကို **"လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"** က အခါအားလျော်စွာ စစ်ဆေးခွင့်ရှိစေရ မည်။ စာရင်းများကို စစ်ဆေးမှုမပြုမီ **"လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"** ထံ ကြိုတင် အကြောင်းကြားမှု ပြုလုပ်ရမည်။

(ဂ) အထက်တွင်ဖော်ပြချက်များ၏ ယေဘူယျသဘောကို မထိခိုက်စေဘဲ၊ **"လုပ်ငန်း လုပ်ကိုင်ခွင့်ပြုသူ"** ၎င်း၏ စာရင်းစစ်များ၊ သို့မဟုတ် ဝန်ထမ်းများနှင့် ကိုယ်စား လှယ်များအနေဖြင့်ရရှိခဲ့သော သတင်းအချက်အလက်များကို အတွင်းရေးအဆင့် ထားရှိပြီး ထိန်းသိမ်းထားရမည်။ ၎င်းသတင်းအချက်အလက်များကို **"လုပ်ငန်း လုပ်ကိုင်ခွင့်ရသူ"** ၏ ခွင့်ပြုချက် (သို့မဟုတ်) ဥပဒေအရလိုအပ်ချက်ကြောင့်မှ လွဲ၍ အခြားသူများသို့ ဖြန့်ဝေခြင်းမပြုရ။

(ဃ) ဤပဋိညာဉ်စာချုပ်တွင် ပါဝင်လက်မှတ်ရေးထိုးသူများအနေဖြင့် ဆိပ်ကမ်းအခွန် အခများကို ၁၉၉၈ ခုနှစ်၊ မတ်လ (၃၁) ရက်နေ့တွင် ထုတ်ပြန်ခဲ့သော မြန်မာ့ ဆိပ်ကမ်းအာဏာပိုင်၏ အခွန်အခနှုန်းထားဇယားတွင် ဖြ[illegible]န်းထားသည့်

လက်ရှိနှုန်းထားအတိုင်း ကောက်ခံရန် သဘောတူညီကြသည်။ ဆိပ်ကမ်းအခွန်အခအားလုံးကိုလိုအပ်ချိန်တွင် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်က ပြင်ဆင်သတ်မှတ်သည့်အတိုင်း လိုက်နာဆောင်ရွက်ရမည်။ ဆိပ်ကမ်းအခွန်အခနှုန်းထားကို မြန်မာ့ဆိပ်ကမ်းအာဏာပိုင်ကသာ အမြဲတမ်း ထိန်းချုပ်သတ်မှတ်မည်။

## အပိုဒ်-၁၃။ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှု

၁၃။ **"လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"** သည် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုအတွက် အောက်ပါတို့ကို တာဝန်ယူဆောင်ရွက်ရမည်-

(က) လုပ်ငန်းစီမံကိန်းနယ်မြေနှင့် ၎င်းနယ်မြေတစ်ဝိုက်တွင် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး၊

(ခ) လေထု၊ ရေထုနှင့် မြေထုများ၊ ညစ်ညမ်းမှုနှင့် သဘာဝပတ်ဝန်းကျင် အခြေအနေ ယုတ်လျော့မှုမရှိအောင် ထိန်းသိမ်းရေး၊

(ဂ) လုပ်ငန်းစီမံကိန်းနေရာအား သဘာဝပတ်ဝန်းကျင်နှင့် လိုက်လျောညီထွေဖြစ်အောင်ထိန်းသိမ်းနိုင်ရန်၊ ရေဆိုးနှင့် စွန့်ပယ်ပစ္စည်းများ ထိန်းသိမ်းသည့် စက်ကရိယာများတပ်ဆင်မှုအပါအဝင် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ရေး အတွက် လိုအပ်သောအစီအမံများကို ချမှတ်ဆောင်ရွက်ရမည်။

## အပိုဒ်-၁၄။ ပဋိညာဉ်စာချုပ်သက်တမ်းနှင့် စတင်အကျိုးသက်ရောက်သည့်နေ့

၁၄။ ဤပဋိညာဉ်စာချုပ်သည် ပဋိညာဉ်စာချုပ် လက်မှတ်ရေးထိုးသည့်နေ့မှ စတင်အကျိုးသက်ရောက်စေရမည်။ ဤပဋိညာဉ်စာချုပ်၏ အပိုဒ်(၁၀)ပါ တည်ဆောက်ရေးကာလစေ့ရောက်သည့်နေ့ (သို့မဟုတ်) တရားဝင်ဖွင့်လှစ်ခြင်း (Grand Opening) ပြုလုပ်သည့်နေ့၊ ထိုနေ့နှစ်ရပ်အနက် စောရာကာလမှ ပဋိညာဉ်စာချုပ်သက်တမ်းကို စတင်ရေတွက်ရမည်ဖြစ်ပြီး၊ ပဋိညာဉ်စာချုပ် သက်တမ်းကာလမှာ နှစ်ပေါင်း ၃၀ (သုံးဆယ်) နှစ် ခွင့်ပြုရန် သဘောတူသည်။

## အပိုဒ်-၁၅။ ပဋိညာဉ်စာချုပ်ကို ရပ်စဲခြင်း

၁၅။ ဤပဋိညာဉ်စာချုပ်ကို အောက်ပါအကြောင်း တစ်ရပ်ရပ်ပေါ်ပေါက်ပါက ရပ်စဲနိုင်သည်-

(က) လုပ်ငန်းကြီးမားစွာ ဆက်တိုက် အရှုံးပေါ်ပေါက်နေခြင်း၊

(ခ) ပဋိညာဉ်စာချုပ်ဝင်တစ်ဖက်ဖက်မှ စာချုပ်ပါတာဝန်များဆောင်ရွက်ရန် ပျက်ကွက်ခြင်း၊

(ဂ) ကြိုတင်၍မမျှော်မှန်းနိုင်သည့်အပြင် တားဆီးခြင်းလည်းမပြုနိုင်သော မလွန်ဆန်နိုင်သည့်ဖြစ်ရပ်များသည် တစ်ဆက်တည်း (၆)လထက် ကျော်လွန်ဖြစ်ပွားခြင်း၊

(ဃ) လုပ်ငန်း၏ မူလရည်မှန်းချက်များကို အကောင်အထည်ဖော်နိုင်စွမ်းမရှိတော့ခြင်း၊

(င) မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြ၍ နှစ်ဦးနှစ်ဖက် သဘောတူညီချက်ဖြင့် ပဋိညာဉ်စာချုပ်ကို ရပ်စဲခြင်း၊

## အပိုဒ်-၁၆။ မလွန်ဆန်နိုင်သော ဖြစ်ရပ်များ

၁၆။ (က) မလွန်ဆန်နိုင်သောဖြစ်ရပ်ဆိုသည်မှာ သဘာဝအလျောက်ကြုံတွေ့သည့်ရေဘေး၊ လေဘေး၊ မီးဘေး၊ မြေငလျင်ဘေးစသည်များအပြင်၊ နိုင်ငံတော်အစိုးရ၏ ကန့်သတ်တားမြစ်ချက်များ၊ တရားဥပဒေစိုးမိုးရေးနှင့် ငြိမ်ဝပ်ပိပြားမှု ပျက်ပြယ်ခြင်း၊ စစ်ဖြစ်ခြင်း၊ သပိတ်မှောက်ခြင်းစသည်တို့နှင့် စာချုပ်ဝင်တစ်ဖက်ဖက်က လိုအပ်သော သတိဝီရိယနှင့် ဆောင်ရွက်စေကာမူ မလွန်ဆန်မကျော်လွှားနိုင်သည့် အလားတူဖြစ်ရပ်များဖြစ်ပြီး၊ ယင်းမလွန်ဆန်နိုင်သော ဖြစ်ရပ်များကြောင့် ငှားရမ်းသုံးစွဲမှုကို ထိခိုက်ဆုံးရှုံးစေလျှင် "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" သို့ နစ်နာဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းခံခွင့် မရှိစေရ။

(ခ) ထိုသို့မလွန်ဆန်နိုင်သောဖြစ်ရပ်ပေါ်ပေါက်ပါက ယင်းဖြစ်ရပ်ဖြစ်ပေါ်သည့်အချိန်မှ(၁၄)ရက်အတွင် "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" သို့ ချက်ချင်းစာဖြင့် ရေးသားအကြောင်းကြားရမည်။ "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" က လက်ခံအတည်ပြုလျှင် မလွန်ဆန်နိုင်သော ဖြစ်ရပ်မြောက်ပြီး ဤသဘောတူစာချုပ်အရ ဆောင်ရွက်ရမည့်တာဝန်များ ပျက်ကွက်ခြင်း၊ နှောင့်နှေးကြန့်ကြာခြင်းသည် မလွန်ဆန်နိုင်သော ဖြစ်ရပ်ကြောင့်ဖြစ်ပါက ကင်းလွတ်ခွင့် ပြုရမည်။

## အပိုဒ်-၁၇။ အငြင်းပွားမှုဖြေရှင်းခြင်း

၁၇။ ဤသဘောတူစာချုပ်နှင့်ပတ်သက်၍ အငြင်းပွားမှု တစ်စုံတစ်ရာပေါ်ပေါက်ပါက နှစ်ဦးနှစ်ဖက်ပြေလည်စွာညှိနှိုင်းဖြေရှင်းရမည်။ ထိုသို့ဖြေရှင်း၍မရပါက ဥပဒေနှင့်အညီ သက်ဆိုင်ရာ စီရင်ပိုင်ခွင့်ရှိသော တရားရုံး၏ဆုံးဖြတ်ချက်ကို ခံယူရမည်။

## အပိုဒ်-၁၈။ ပြင်ဆင်ခြင်း

၁၈။ ဤပဋိညာဉ်စာချုပ်တွင် မျှော်မှန်းမထားသော အခြေအနေများ ပေါ်ပေါက်လာခြင်းကြောင့် ပဋိညာဉ်စာချုပ်ကို ပြင်ဆင်ရန်လိုအပ်ပါက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြ၍ သဘောတူညီချက်ရယူပြီးနောက် ပဋိညာဉ်စာချုပ်ဝင်များသည် စာဖြင့်ရေးသား၍ ပြင်ဆင်ရမည်။ ထိုသို့ ပြင်ဆင်ချက်များကို ဤပဋိညာဉ်စာချုပ်၏ အစိတ်အပိုင်းအဖြစ် ပါဝင်သည်ဟု မှတ်ယူရမည်။

## အပိုဒ်-၁၉။ စာချုပ်ညှိနှိုင်းဆွေးနွေးခြင်း

၁၉။ ဤပဋိညာဉ်စာချုပ်တွင် မူလကမမျှော်မှန်းထားသောအခြေအနေတစ်ရပ်ရပ် (သို့မဟုတ်) အနေအထား တစ်ရပ်ရပ်ဖြစ်ပေါ်လာပါ၍ ပဋိညာဉ်စာချုပ်ကို ပြင်ဆင်ရန် (သို့မဟုတ်) ပြောင်းလဲရန် ပေါ်ပေါက်လာသည့်အခါ နှစ်ဖက်စာချုပ်ဝင်တို့သည် သင့်လျော်သည့်ပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်းနှင့် ဖြည့်စွက်ခြင်းများ ဆောင်ရွက်နိုင်ရန် သဘောရိုးဖြင့် ညှိနှိုင်းဆွေးနွေးရမည်။

## အပိုဒ်-၂၀။ ပဋိညာဉ်စာချုပ်သက်တမ်းတိုးမြှင့်ခြင်း

၂၀။ ဤပဋိညာဉ်စာချုပ် သက်တမ်းတိုးမြှင့်လိုပါက ပဋိညာဉ်စာချုပ်သက်တမ်း မကုန်ဆုံးမီ ၆ (ခြောက်) လအတွင်း နှစ်ဖက်ညှိနှိုင်း သဘောတူညီမည့် သက်တမ်းတိုးမြှင့်ပေးရေးဆိုင်ရာ စည်းမျဉ်း၊ စည်းကမ်း၊ နှုန်းထားများနှင့်အညီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှတစ်ဆင့် အစိုးရအဖွဲ့သို့ တင်ပြအတည်ပြုချက်ဖြင့်သာ ပဋိညာဉ်စာချုပ် သက်တမ်းတိုးရန်ဖြစ်သည်။

## အပိုဒ်-၂၁။ ခွင့်ပြုလွှဲအပ်ခြင်း

၂၁။ ဤပဋိညာဉ်စာချုပ်ပါ အခွင့်အရေးများနှင့် လုပ်ငန်းတာဝန်များကို ပဋိညာဉ်စာချုပ်ဝင်များက အခြားသူများသို့ ခွင့်ပြုလွှဲအပ်လိုပါက နှစ်ဦးနှစ်ဖက်လုံးက သဘောတူညီမှသာ ခွင့်ပြုလွှဲအပ်မှု စာချုပ်စာတမ်းပြုလုပ်၍ ခွင့်ပြုလွှဲအပ်နိုင်ခွင့်ရှိသည်။

## အပိုဒ်-၂၂။ အာမခံထားရှိခြင်း

၂၂။ "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် လုပ်ထုံးလုပ်နည်းများ၊ မြန်မာ့အာမခံဥပဒေနှင့် လုပ်ထုံးလုပ်နည်းများပါ ပြဋ္ဌာန်းချက်များနှင့်အညီ လုပ်ငန်းစီမံကိန်းအတွက် လိုအပ်သော အာမခံများ ထားရှိဆောင်ရွက်ရမည်။

## အပိုဒ်-၂၃။ အထွေထွေကိစ္စရပ်များ

၂၃။ (က) **တရားမဝင်ခြင်း။** ဤပဋိညာဉ်စာချုပ်ပါ ပြဋ္ဌာန်းချက် တစ်စုံတစ်ရာသည် တရားမဝင်ကြောင်း (သို့မဟုတ်) ဥပဒေအရ အရေးယူဆောင်ရွက်နိုင်မှု မရှိကြောင်း မည်သို့ပင်ပေါ်ပေါက်စေကာမူ ဤပဋိညာဉ်စာချုပ်ပါ ကျန်ပြဋ္ဌာန်းချက်များသည် ဥပဒေနှင့်အညီ ဆက်လက်၍ အပြည့်အဝအကျိုးသက်ရောက်မှု ရှိစေရမည်။

(ခ) **ဖောက်ဖျက်မှုကိုခွင့်လွှတ်ခြင်း။** ဤပဋိညာဉ်စာချုပ်ပါ ပြဋ္ဌာန်းချက် တစ်စုံတစ်ရာအား ဖောက်ဖျက်မှုကိုခွင့်လွှတ်ခြင်းသည် ထိုပြဋ္ဌာန်းချက်ကို (သို့မဟုတ်) ပဋိညာဉ်စာချုပ်၏ အခြားပြဋ္ဌာန်းချက် တစ်စုံတစ်ရာကို ဆက်လက် ချိုးဖောက်နေခြင်းအတွက် ခွင့်လွှတ်ရာ မရောက်စေရ။

ဤပဋိညာဉ်စာချုပ်တွင်ဖော်ပြပါရှိသောအခွင့်အရေး၊ အခွင့်အာဏာ(သို့မဟုတ်) အကျိုးခံစားခွင့် တစ်စုံတစ်ရာကို စာချုပ်တွင် ပါဝင်လက်မှတ်ရေးထိုးသူများက ရယူဆောင်ရွက်ရန်ပျက်ကွက်ခြင်း (သို့မဟုတ်) နှောင့်နှေးခြင်းသည် ထိုအခွင့်အရေး၊ အခွင့်အာဏာ(သို့မဟုတ်)အကျိုးခံစားခွင့်ကို စွန့်လွှတ်ရာမရောက်စေရ။ ထို့အပြင် ထိုအခွင့်ရေး၊ အခွင့်အာဏာ(သို့မဟုတ်)အကျိုးခံစားခွင့် တစ်ခုတည်းကိုသော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသကိုသော်လည်းကောင်း ရယူဆောင်ရွက်ခြင်းသည် အခြားအခွင့်အရေး၊ အခွင့်အာဏာ (သို့မဟုတ်) အကျိုးခံစားခွင့်ကို ရယူရန် ဟန့်တားရာမရောက်စေရ။

(ဂ) **ပစ္စည်းများလွှဲပြောင်းပေးခြင်း။** ဤပဋိညာဉ်စာချုပ် သက်တမ်းကုန်ဆုံးချိန် (သို့မဟုတ်) ရပ်စဲချိန်တွင် တပ်ဆင်ထားသော စက်ကိရိယာများ အပါအဝင် "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" က ဆောက်လုပ်ထားသည့် အဆောက်အဦများကို ကောင်းမွန်စွာ ထိန်းသိမ်းထားသော အနေအထားအတိုင်း အဖိုးစားနားမပါဘဲ "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ပိုင်ပစ္စည်းအဖြစ် လွှဲပြောင်းပေးရမည်။ အကယ်၍ "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" မှ ၎င်းအဆောက်အဦများကို အားလုံးကိုသော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသကိုသော်လည်းကောင်း လက်ခံရန်ဆန္ဒမရှိလျှင် ထိုသို့လက်ခံနိုင်ခြင်းမရှိကြောင်း ညွှန်ကြားသည့် အဆောက်အဦများကို "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" မှ ကုန်ကျစရိတ်ကျခံ၍ လုံးဝဖယ်ရှားပေးရမည်။

(ဃ) **အရေးကြီးသောပစ္စည်းများတွေ့ရှိမှု။** "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် ငှားရမ်းမြေပေါ်တွင် တူးဖော်ခြင်း (သို့မဟုတ်) ဖောက်ခွဲခြင်း လုပ်ငန်းပြုလုပ်စဉ် အရေးကြီးသော မည်သည့်တွေ့ရှိမှုကိုမဆို "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ထံ

ချက်ချင်းအကြောင်းကြားရမည်။ အရေးကြီးသောပစ္စည်းများ တွေ့ရှိမှုဆိုရာတွင် မြေတူးစဉ်နှင့် ဖောက်ခွဲမှုပြုလုပ်စဉ်တွေ့ရှိရသော အနုပညာ၊ ရှေးဟောင်းပစ္စည်းများ၊ သဘာဝသမိုင်း၊ ဒင်္ဂါးများနှင့် သိပ္ပံဆိုင်ရာအရေးပါသော အရာဝတ္ထုများ၊ ရှားပါးပြီး တန်ဖိုးရှိသောပစ္စည်းများနှင့် သဘာဝသယံဇာတ အရင်းအမြစ်များ ပါဝင်ပြီး အဆိုပါပစ္စည်းများသည် နိုင်ငံပိုင်ပစ္စည်းများဖြစ်သည်။

"လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"သည် အဆိုပါပစ္စည်းများကို သက်ဆိုင်ရာအစိုးရအဖွဲ့အစည်းသို့တင်ပြ၍ အတည်ပြုချက်ရယူပြီး မည်သည့်အချိန်တွင်မဆို လွတ်လပ်စွာတူးဖော်ရယူခွင့် ရှိစေရမည်။

(င) **တစ်စိတ်တစ်ဒေသအဖြစ်မှတ်ယူခြင်း။** ဤပဋိညာဉ်စာချုပ်တွင် ပါဝင်လက်မှတ်ရေးထိုးသူများအကြား ချုပ်ဆိုသည့် မြေငှားစာချုပ်အပါအဝင် နောက်ဆက်တွဲများအားလုံးကို ဤပဋိညာဉ်စာချုပ်၏ တစ်စိတ်တစ်ဒေသအဖြစ် မှတ်ယူရမည်။

(စ) **အကြောင်းကြားစာများ။** ဤပဋိညာဉ်စာချုပ်တွင် အခြားနည်းပြဋ္ဌာန်းထားချက်များမှတစ်ပါး ဤပဋိညာဉ်စာချုပ်အရလိုအပ်သော (သို့မဟုတ်) ခွင့်ပြုထားသော အကြောင်းကြားစာတောင်းခံချက် (သို့မဟုတ်)အခြားဆက်သွယ်မှုအားလုံးကို စာဖြင့်ရေးပြီး၊ လက်ခံရမည့်သူ၏ လိပ်စာတပ်၍ လူကိုယ်တိုင်သော်လည်းကောင်း၊ စာတိုက်မှမှတ်ပုံတင်၍သော်လည်းကောင်း၊ ဖက်(စ်)ဖြင့်သော်လည်းကောင်း ပေးပို့ရမည်။ ဖော်ပြပါအကြောင်းကြားစာ၊ တောင်းခံချက် (သို့မဟုတ်) အခြားဆက်သွယ်မှု (ဤမှ နောင်တွင် **"အကြောင်းကြားစာ"** ဟု ရည်ညွှန်းမည်) တစ်စုံတစ်ရာကို အောက်ပါအတိုင်း ဆောင်ရွက်ပြီးဖြစ်က လက်ခံမည့်သူထံ တရားဝင်ပေးပို့ပြီးဖြစ်သည်ဟု မှတ်ယူရမည်-

(၁) ဖက်(စ်)ဖြင့် **အကြောင်းကြားစာ** ပေးပို့ပြီးဖြစ်ပါက၊ ဖက်(စ်)နံပါတ်၊ စာမျက်နှာအရေအတွက်နှင့် ပေးပို့ပြီးဖြစ်ကြောင်း အတည်ပြုဖော်ပြထားသည့် သတင်းပေးပို့ချက်မှတ်တမ်းကို ပေးပို့သူက လက်ခံရရှိလျှင် အဆိုပါ **အကြောင်းကြားစာ**ကို တရားဝင်ပေးပို့ပြီးဟု မှတ်ယူရမည်။

(၂) အကယ်၍ **အကြောင်းကြားစာ**ကိုလက်ခံမည့်သူ၏ လိပ်စာတပ်၍ တံဆိပ်ခေါင်းကပ်ပြီး စာတိုက်မှပေးပို့ခြင်းဖြစ်ပါက စာတိုက်မှပေးပို့ပြီးဖြစ်ကြောင်း သက်သေပြနိုင်ပြီး ထိုသို့ပေးပို့သည့်နေ့မှ ၁၄ (တစ်ဆယ့်လေး) ရက်မြောက်နေ့တွင် စာအိတ်ပေါ်၌ ရေးသားထားသည့် လိပ်စာရှင်ထံသို့ တရားဝင်ပေးပို့ပြီးဖြစ်ကြောင်း မှတ်ယူရမည်။

## အပိုဒ်-၂၄။ ဆက်သွယ်ရန် လိပ်စာများ

၂၄။ ဤပဋိညာဉ်စာချုပ်ဝင်များအကြား စာဖြင့်ရေးသားဆက်သွယ်ရန် လိပ်စာမှာ အောက်ပါအတိုင်းဖြစ်သည်-

**ဦးဆောင်ညွှန်ကြားရေးမှူး**
မြန်မာ့ဆိပ်ကမ်းအာဏာပိုင်
အမှတ် (၁၀) ပန်းဆိုးတန်းလမ်း၊ ကျောက်တံတားမြို့နယ်၊ ရန်ကုန်မြို့
ဖက်(စ်)အမှတ်-၂၄၆၇၈၁၊ ၃၉၁၃၅၅

နှင့်

ဥက္ကဋ္ဌ
ကောင်းမြန်မာအောင်သင်္ဘောကုမ္ပဏီလီမိတက် (**Kaung Myanmar Aung Shipping Company Limited**)အိုလံပစ်တာဝါ၊ အခန်းအမှတ် (၃၀၄၊ ၃၀၅၊ ၃၀၆)၊ တတိယထပ်၊ မဟာဗန္ဓုလလမ်းနှင့် ဗိုလ်အောင်ကျော်လမ်းထောင့်၊ ကျောက်တံတားမြို့နယ်၊ ရန်ကုန်မြို့
ဖက်(စ်)အမှတ်-၃၉၈၂၀၅

သက်သေထင်ရှားစိမ့်သောငှာ၊ စာချုပ်ချုပ်ဆိုရာတွင်ပါဝင်သူများသည် အထက်ဖော်ပြပါ ( ၂၉ ) ရက်နေ့၊ ဇူလိုင်လ၊ ၂၀၁၃ ခုနှစ်တွင် အောက်ပါအသိသက်သေများ ရှေ့မှောက်၌ ဤပဋိညာဉ် စာချုပ်ကို လက်မှတ်ရေးထိုးကြပါသည်-

(လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ)
ကိုယ်စားလက်မှတ်ရေးထိုးသူ

အမည် - ဦးချိုသန်းမောင်
ရာထူး - ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

(လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ)
ကိုယ်စားလက်မှတ်ရေးထိုးသူ

အမည် - ဦးကျော်လင်း
ရာထူး - ဒု-ဥက္ကဋ္ဌ
ကောင်းမြန်မာအောင်
သင်္ဘောကုမ္ပဏီလီမိတက်

အသိသက်သေများ

အမည် - ဦးကျော်မြင့်
ရာထူး - အထွေထွေမန်နေဂျာ
ဌာန - မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

အမည် - ဦးဇော်ဝင်းအောင်
ရာထူး - အထွေထွေမန်နေဂျာ
ဌာန - ကောင်းမြန်မာအောင်
သင်္ဘောကုမ္ပဏီလီမိတက်

ပို့ဆောင်ရေးဝန်ကြီးဌာန

မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

နှင့်

ကောင်းမြန်မာအောင်သင်္ဘောကုမ္ပဏီလီမိတက်

(Kaung Myanmar Aung Shipping Company Limited)

တို့အကြား

ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေ၊

သီလဝါဆိပ်ကမ်းဒေသတွင် စက်သုံးဆီသိုလှောင်ကန်များနှင့်

အထောက်အကူပြု အဆောက်အဦများ တည်ဆောက်ပြီး

ဝန်ဆောင်မှုလုပ်ငန်းကို B.O.T စနစ်ဖြင့်

လုပ်ငန်းဆောင်ရွက်ရန်အတွက် ချုပ်ဆိုသည့်

မြေငှားစာချုပ်




**ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်းဒေသတွင်**

**စက်သုံးဆီသိုလှောင်ကန်များနှင့်အထောက်အကူပြုအဆောက်အအုံများတည်ဆောက်ပြီး၊**

**B.O.T စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်ရန်နှင့် လွှဲပြောင်းရန်အတွက်**

**မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် ကောင်းမြန်မာအောင်သင်္ဘောကုမ္ပဏီလီမိတက်**

**(Kaung Myanmar Aung Shipping Company Limited) တို့အကြား ချုပ်ဆိုသည့်**

# မြေငှားစာချုပ်

ဤမြေငှားစာချုပ်ကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ရန်ကုန်မြို့တွင် ၂၀၁၃ ခုနှစ်၊ ဇူလိုင်လ ( ၂၉ ) ရက်နေ့၌

**ဦးချိုသန်းမောင်၊ ဦးဆောင်ညွှန်ကြားရေးမှူး** ကိုယ်စားပြုသော ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်၊ ပို့ဆောင်ရေးဝန်ကြီးဌာန လက်အောက်ရှိ **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်** (ဤမှနောင်တွင် **"မြေငှားရမ်းသူ"** ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ရာ၊ ယင်းစကားရပ်တွင် စာသားအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်းမရှိပါက ၎င်း၏ဆက်ခံသူများနှင့် ခွင့်ပြုလွှဲအပ်သူများပါဝင်သည်ဟု မှတ်ယူရမည်) က တစ်ဖက်

နှင့်

**ဦးကျော်လင်း**၊ ဒု-ဥက္ကဋ္ဌ၊ နိုင်ငံသားစိစစ်ရေးကဒ်ပြားအမှတ်၊ ၁၂/သဃက (နိုင်) ၀၆၁၃၂၈ ကိုယ်စားပြုသော အိုလံပစ်တာဝါ၊ အခန်းအမှတ် ၃၀၄၊ ၃၀၅၊ ၃၀၆၊ တတိယထပ်၊ မဟာဗန္ဓုလလမ်းနှင့် ဗိုလ်အောင်ကျော်လမ်းထောင့်၊ ကျောက်တံတားမြို့နယ်၊ ရန်ကုန်မြို့ရှိ **ကောင်းမြန်မာအောင်သင်္ဘောကုမ္ပဏီလီမိတက် (Kaung Myanmar Aung Shipping Company Limited)** (ဤမှနောင်တွင် "မြေငှားချထားခြင်းခံရသူ"ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ရာ၊ ယင်းစကားရပ်တွင်




စာသားအရ သော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း၊ ရှေ့နောက် ဆန့်ကျင်ကွဲလွဲခြင်းမရှိပါက ၎င်း၏ တရားဝင်ကိုယ်စားလှယ်များ၊ ဆက်ခံသူများနှင့် ခွင့်ပြုလွှဲအပ်သူများ ပါဝင်သည်ဟု မှတ်ယူရမည်) က အခြားတစ်ဖက်တို့ ချုပ်ဆိုကြပါသည်။

(က) "မြေငှားရမ်းသူ" သည် "ငှားရမ်းသည့်မြေ" ကို ဥပဒေအရ တရားဝင်ပိုင်ဆိုင်ခွင့်ရှိကြောင်း ကိုယ်စားပြု အာမခံချက်ပေးသဖြင့် လည်းကောင်း၊

(ခ) "မြေငှားရမ်းသူ" က ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်းဒေသရှိ ပူးတွဲ (၁) တွင် အနီရောင်ဖြင့် ဘောင်ခတ်ထားသော မြေကွက်အမှတ်၊ ၃၁၊ ၃၂ (C) ဧရိယာ (၂၄.၇၁) ဧက အကျယ်အဝန်းရှိ မြေနေရာ (နောင်တွင် "ငှားရမ်းသည့်မြေ" ဟု ရည်ညွှန်းခေါ်ဆိုရမည်) ကို ငှားရမ်းလိုသောဆန္ဒရှိပြီး၊ "မြေငှားချထားခြင်းခံရသူ" က အောက်တွင် ဆက်လက်ဖော်ပြမည့် စည်းမျဉ်း၊ စည်းကမ်းများနှင့်အညီ "ငှားရမ်းသည့်မြေ" တွင် စက်သုံးဆီသိုလှောင်ကန်များနှင့် အထောက်အကူပြု အဆောက်အအုံများ (နောင်တွင် "ကောင်းမြန်မာအောင် စက်သုံးဆီသိုလှောင်ဖြန့်ဖြူးရေးစီမံကိန်း" ဟု ရည်ညွှန်းခေါ်ဆိုမည်) ကို တည်ဆောက်၍ BOT စနစ်ဖြင့် လုပ်ငန်းလုပ်ကိုင်ရန်အတွက် အငှားရယူလိုသဖြင့် လည်းကောင်း၊

ဤမြေငှားစာချုပ်ကို နှစ်ဦးနှစ်ဖက် အကြေအလည်ညှိနှိုင်းပြီး အောက်ပါအတိုင်း သဘောတူချုပ်ဆိုကြပါသည် -

၁။ အောက်ဖော်ပြပါအတိုင်း မြေအသုံးချမှုပရီမီယံကြေးနှင့် မြေငှားခကို ပေးချေရန် သဘောတူညီချက်ကိုထောက်ထား၍ "မြေငှားရမ်းသူ" သည် "မြေငှားချထားခြင်းခံရသူ" သို့ BOT စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်ရန် ချုပ်ဆိုသည့် ပဋိညာဉ်စာချုပ်၏ အပိုဒ်(၁၀) ပါ




တည်ဆောက်ရေးကာလ[illegible]စေ့ရောက်သည့်နေ့ (သို့မဟုတ်) တရားဝင်ဖွင့်လှစ်ခြင်း (Grand Opening) ပြုလုပ်သည့်နေ့၊ ထိုနေ့နှစ်ရပ်အနက် စောရာကာလမှ နှစ်ပေါင်း ၃၀ (သုံးဆယ်)နှစ် ခွင့်ပြုရန် သဘောတူညီသည်။

(က) မြေအသုံးချမှုပရီမီယံ။ "ငှားရမ်းသည့်မြေ" ကို မြေငှားစာချုပ်ပါစည်းကမ်းချက်များနှင့်အညီ အငှားချထားမှုအတွက် မြေအသုံးချမှုပရီမီယံကြေးအဖြစ် မြေတစ်ကေလျှင် ငွေကျပ် (၁၅၀)သိန်းနှုန်းဖြင့် စုစုပေါင်းငွေကျပ် ၃၇၀,၆၅၀,၀၀၀/- (ငွေကျပ် သုံးရာခုနစ်ဆယ်သန်း ခြောက်သိန်း ငါးသောင်းတိတိ)ကို "မြေငှားချထားခြင်းခံရသူ" က "မြေငှားရမ်းသူ" ထံ အောက်ပါအတိုင်း ပေးသွင်းရမည် -

(၁) စာချုပ်လက်မှတ်ရေးထိုးပြီး ၁(တစ်)လအတွင်း ကျပ် ၁၈၅,၃၂၅,၀၀၀/- (ကျပ် တစ်ရာရှစ်ဆယ်ငါးသန်း သုံးသိန်းနှစ်သောင်းငါးထောင် တိတိ) ကို ပထမအရစ်အဖြစ် ပေးသွင်းရန်၊

(၂) စာချုပ်လက်မှတ်ရေးထိုးပြီး ၁၂ (တစ်ဆယ့်နှစ်) လ အတွင်း ကျပ် ၁၈၅,၃၂၅,၀၀၀/- (ကျပ် တစ်ရာရှစ်ဆယ်ငါးသန်း သုံးသိန်းနှစ်သောင်းငါးထောင်တိတိ) ကို ဒုတိယရစ်အဖြစ် ပေးသွင်းရန်၊

(ခ) မြေငှားခများ။ "မြေငှားချထားခြင်းခံရသူ" သည် "ကောင်းမြန်မာအောင်စက်သုံးဆီသိုလှောင်ဖြန့်ဖြူးရေးစီမံကိန်း"ကို တည်ဆောက်ပြီးသည်နှင့် လုပ်ငန်းများလုပ်ကိုင်ခွင့်အတွက် အောက်တွင်ဖော်ပြထားသော နှုန်းထားများအတိုင်း လစဉ်မြေငှားရမ်းခအဖြစ် ငွေကျပ် ၁၃,၃၅၆,၇၅၇/- (ကျပ် တစ်ဆယ်သုံးသန်း သုံးသိန်းငါးသောင်းခြောက်ထောင်ခုနစ်ရာငါးဆယ့်ခုနစ်တိတိ)ကို အင်္ဂလိပ်လဆန်း ၇ (ခုနစ်)ရက်မတိုင်မီ "မြေငှားရမ်းသူ" သို့ ပေးသွင်းရမည်။ ပထမလအတွက်




မြေငှားရမ်းခ ၊ စတင်ပေးဆောင်ရမည့်အစီအစဉ်ကို နှစ်ဦးနှစ်ဖက်ညှိနှိုင်းသတ်မှတ်ရမည်။ ပေးဆောင်ရမည့်မြေငှားရမ်းခကို ကုမ္ပဏီမှ ၁၂-၆-၂၀၁၁ ရက်နေ့ အစည်းအဝေးတွင် တင်ပြထားသော စက်သုံးဆီများသိုလှောင်ခြင်း၊ ဖြန့်ဖြူးခြင်း လုပ်ငန်းများစတင်ဆောင်ရွက်ရန် လျာထားသည့် (၁-၁-၂၀၁၃)ရက်နေ့မှ စတင်ပေးချေရမည် -

ကျောထောက်နောက်ခံမြေနေရာအတွက်မြေငှား =ကျပ် ၁၃,၃၅၆,၇၅၇/-
ရမ်းခ (၂၄. ၇၁ ဧက x ၅၄၀၅၄၀. ၅၄/-)

၂။ ဤမြေငှားစာချုပ်သည် စာချုပ်ဝင်နှစ်ဦးနှစ်ဖက် လက်မှတ်ရေးထိုးသည့်နေ့မှ စတင်အကျိုးသက်ရောက်စေရမည်။

၃။ "မြေငှားချထားခြင်းခံရသူ" သည် "မြေငှားရမ်းသူ" ထံသို့ အောက်ပါအတိုင်း ခံဝန်ကတိပြုသည် -

(က) "ငှားရမ်းသည့်မြေ" အားလုံးကိုသော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသကိုသော်လည်းကောင်း ထပ်ဆင့်အငှားချထားခြင်း၊ ပေါင်နှံခြင်းမပြုရန်၊

(ခ) တည်ဆောက်မည့် စက်သုံးဆီသိုလှောင်ဖြန့်ဖြူးရေး အဆောက်အအုံများနှင့် စက်ကရိယာများအတွက် ဆက်နွယ်သည့် ရင်းနှီးမြှုပ်နှံမည့် ကုန်ကျစရိတ်အားလုံးကို ကျခံရန်၊

(ဂ) "ငှားရမ်းသည့်မြေ"နေရာသို့ "မြေငှားရမ်းသူ" ၏ ကိုယ်စား တာဝန်ပေးအပ်ခြင်းခံရသူများအား ၎င်းတို့၏ လုပ်ငန်းတာဝန်များကို လုပ်ဆောင်ရန်အလို့ငှာ ဝင်ရောက်ခွင့်ပြုရန်၊

(ဃ) "ငှားရမ်းသည့်မြေ" (သို့မဟုတ်)၎င်း၏ အစိတ်အပိုင်းပေါ်တွင်အကောင်အထည် ဖော်ဆောင်ရွက်မည့် လုပ်ဆောင်မှုများနှင့် လုပ်ငန်းဆောင်ရွက်မှုများ အားလုံး သည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ တရားဥပဒေများနှင့် အညီအညွတ် ဖြစ်ရန်၊

(င) "ငှားရမ်းသည့်မြေ" (သို့မဟုတ်) ၎င်း၏ အစိတ်အပိုင်းပေါ်တွင် ကျသင့်မည့် လျှပ်စစ်မီး၊ ရေနှင့် စည်ပင်သာယာခွန်များအားလုံးကို ပေးချေရန်၊

၄။ "မြေငှားရမ်းသူ" သည် "မြေငှားချထားခြင်းခံရသူ" သို့ အောက်ပါအတိုင်း ခံဝန်ကတိပြုသည် -

(က) "မြေငှားရမ်းသူ" သည် "ငှားရမ်းသည့်မြေ" အား လက်ရောက် ပေးအပ်ငှားရမ်းရမည်၊

(ခ) "မြေငှားချထားခြင်းခံရသူ" သည် "ငှားရမ်းသည့်မြေ" သို့ ရည်မှန်းထားသည့် လုပ်ငန်းတာဝန်နှင့် သင့်မြတ်လျော်ကန်သော အသုံးအဆောင်များ ဆောက်လုပ်ရန်အတွက် ငြိမ်သက်စွာနှင့် အေးငြိမ်းစွာ ဝင်ရောက်နိုင်ခွင့်ပြုရမည်။ သို့ရာတွင် ၎င်းအသုံးအဆောင်များ၏ ဒီဇိုင်းများကို "မြေငှားရမ်းသူ" ၏ အတည်ပြုချက် ရရှိပြီးမှသာ ဆောက်လုပ်ခွင့်ပြုရမည်၊

(ဂ) "မြေငှားချထားခြင်းခံရသူ" သည် မြေငှားစာချုပ် သက်တမ်းကာလအတွင်း မည်သည့်အနှောက်အယှက်၊ အဟန့်အတားမှမရှိဘဲ၊ "မြေငှားရမ်းသူ"၏ ယုံမှတ်အပ်နှံခံရသူအနေဖြင့် "ငှားရမ်းသည့်မြေ" ကို ငြိမ်သက်စွာ လက်ဝယ်ရယူထားနိုင်ခွင့်ရှိစေရမည်၊

(ဃ) "မြေငှားရမ်းသူ" သည် "ငှားရမ်းသည့်မြေ" အတွက် မြေခွန်ကိုပေးဆောင်ရမည်၊




၅။ "မြေငှားချထားခြင်းခံရသူ" သည် ဤမြေငှားစာချုပ်ကို လက်မှတ်ရေးထိုးမှုကြောင့် ပေါ်ပေါက်လာသော တံဆိပ်ခေါင်းခွန်ကို ပေးချေရန်အတွက်လည်းကောင်း၊ မြေငှားစာချုပ်၏ ရည်ရွယ်ချက်ကို အကောင်အထည်ဖော်ခြင်း၊ အဆောက်အအုံများ ဆောက်လုပ်ခြင်းနှင့် လုပ်ငန်းဆောင်ရွက်ခြင်းတို့ကြောင့် ပေါ်ပေါက်လာသော အခွန်အခများကို ပေးချေရန်အတွက် လည်းကောင်း တာဝန်ရှိသည်။

၆။ "မြေငှားချထားခြင်းခံရသူ" သည် "မြေငှားရမ်းသူ" ၏ တရားဝင်စာဖြင့် ခွင့်ပြုချက်မရရှိဘဲ ဤမြေငှားစာချုပ်၏ ရည်ရွယ်ချက် တစ်စုံတစ်ရာကို ပြောင်းလဲခြင်း (သို့မဟုတ်) တည်ဆောက်ထားသော အဆောက်အအုံများကို ပြုပြင်ပြောင်းလဲခြင်းမပြုရန် သဘောတူပါသည်။

၇။ "မြေငှားချထားခြင်းခံရသူ" သည် ငှားရမ်းမြေပေါ်တွင် တူးဖော်ခြင်း (သို့မဟုတ်) ဖောက်ခွဲခြင်းလုပ်ငန်း ပြုလုပ်စဉ် အရေးကြီးသော မည်သည့်တွေ့ရှိမှုကိုမဆို "မြေငှားရမ်းသူ" ထံ ချက်ချင်းအကြောင်းကြားရမည်။ အရေးကြီးသောပစ္စည်းများ တွေ့ရှိမှုဆိုရာတွင် မြေတူးစဉ်နှင့် ဖောက်ခွဲမှုပြုလုပ်စဉ် တွေ့ရှိရသော အနုပညာ၊ ရှေးဟောင်းပစ္စည်းများ၊ သဘာဝသမိုင်း၊ ဒင်္ဂါးများနှင့် သိပ္ပံဆိုင်ရာအရေးပါသော အရာဝတ္ထုများ၊ ရှားပါးပြီး တန်ဖိုးရှိသောပစ္စည်းများနှင့် သဘာဝသယံဇာတ အရင်းအမြစ်များပါဝင်ပြီး အဆိုပါပစ္စည်းများသည် နိုင်ငံပိုင်ပစ္စည်းများ ဖြစ်ပြီး ၎င်း၏သဘောအတိုင်း ဆောင်ရွက်နိုင်ခွင့်ရှိသည်။

"မြေငှားရမ်းသူ" သည် အဆိုပါပစ္စည်းများကို သက်ဆိုင်ရာအစိုးရအဖွဲ့အစည်းသို့ တင်ပြ၍ အတည်ပြုချက်ရယူပြီး မည်သည့်အချိန်တွင်မဆို လွတ်လပ်စွာတူးဖော်ရယူခွင့် ရှိစေရမည်။

၈။ "မြေငှားချထားခြင်းခံရသူ" သည် ဆောက်လုပ်ထားသော အဆောက်အအုံများနှင့် ၎င်းတို့၏ ပတ်ဝန်းကျင်တစ်ဝိုက်တွင် ဘေးအန္တရာယ်ကျရောက်မှုနှင့် ညစ်ညမ်းမှုတို့မှ ကာကွယ်




ရန်အတွက် လိုအပ်သော ကြိုတင်ပြင်ဆင်မှုများကို ၎င်း၏စရိတ်ဖြင့် ကျခံဆောင်ရွက်ရမည်။ ထို့အပြင် "မြေငှားချထားခြင်းခံရသူ" အနေဖြင့် "ငှားရမ်းသည့်မြေ" (သို့မဟုတ်) ၎င်း၏ အစိတ်အပိုင်းပေါ်တွင် ဆောင်ရွက်မည့် လုပ်ဆောင်မှုများနှင့် လုပ်ငန်းဆောင်ရွက်မှုများကြောင့် ပေါ်ပေါက်လာမည့် မည်သည့်လျော်ကြေး တောင်းဆိုမှုကိုမဆို "မြေငှားရမ်းသူ" အပေါ်တွင် တာဝန်မရှိစေရ။

၉။ "မြေငှားချထားခြင်းခံရသူ" သည် ဤမြေငှားစာချုပ်၏ စည်းမျဉ်းစည်းကမ်းများကို လိုက်နာရန်ပျက်ကွက်ပါက၊ ထိုသို့ပျက်ကွက်မှုအတွက် "မြေငှားရမ်းသူ" က ထုတ်ပြန်သော အကြောင်းကြားစာရပြီး ရက်ပေါင်း ၃၀(သုံးဆယ်)အတွင်း ပျက်ကွက်မှုကိုပြန်လည်၍မှန်အောင် ပြင်ဆင်ခြင်းမပြုလျှင်၊ "မြေငှားရမ်းသူ" သည် ဤမြေငှားစာချုပ်ပါ "ငှားရမ်းသည့်မြေ" အပေါ် ပြန်လည်ဝင်ရောက်ခွင့်၊ မြေအားလုံးကို ပြန်လည်သိမ်းယူခွင့်ရှိသည်။ ထိုသို့ သိမ်းယူချိန်မှစ၍ မြေငှားရမ်းမှုကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ရရှိမှသာ ရပ်စဲ၊ အဆုံးသတ်ပြီးဖြစ်ရမည်။ မြေသို့ပြန်လည်ဝင်ရောက်သည့် အခွင့်အရေးများသည် ဤမြေငှားစာချုပ်ပါ "မြေငှားရမ်းသူ" က "မြေငှားချထားခြင်းခံရသူ" ထံမှ ရရှိမည့်အခွင့်အရေးများနှင့် တောင်းဆိုပိုင်ခွင့်များကို မထိခိုက်စေရ။

၁၀။ (က) ဤမြေငှားစာချုပ် သက်တမ်းကာလအတွင်း မလွန်ဆန်နိုင်သော ဖြစ်ရပ်များကြောင့် ငှားရမ်းသုံးစွဲမှုကို ထိခိုက်ဆုံးရှုံးစေလျှင် "မြေငှားချထားခြင်းခံရသူ"သည် "မြေငှားရမ်းသူ" သို့ နစ်နာဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းခွင့်မရှိစေရ။ မလွန်ဆန်နိုင်သောဖြစ်ရပ်ဆိုသည်မှာ သဘာဝအလျောက်ကြုံတွေ့သည့်ရေဘေး၊ လေဘေး၊ မီးဘေး၊ မြေငလျင်ဘေးစသည်များအပြင်၊ နိုင်ငံတော်အစိုးရ၏ ကန့်သတ်တားမြစ်ချက်များ၊ တရားဥပဒေစိုးမိုးရေးနှင့် ငြိမ်ဝပ်ပိပြားမှု ပျက်ပြယ်




ခြင်း၊ စစ်ဖြစ်ခြင်း၊ သပိတ်မှောက်ခြင်းစသည်တို့နှင့် စာချုပ်ဝင်တစ်ဖက်ဖက်က လိုအပ်သော သတိဝိရိယနှင့် ဆောင်ရွက်စေကာမူ မလွန်ဆန် မကျော်လွှားနိုင်သည့် အလားတူဖြစ်ရပ်များကို ဆိုလိုသည်၊

(ခ) ထိုသို့ မလွန်ဆန်နိုင်သောဖြစ်ရပ် ပေါ်ပေါက်ပါက ယင်းဖြစ်ရပ်ဖြစ်ပေါ်သည့် အချိန်မှ(၁၄)ရက်အတွင်း "မြေငှားချထားခြင်းခံရသူ" သည် "မြေငှားရမ်းသူ" သို့ ချက်ချင်းစာဖြင့် ရေးသားအကြောင်းကြားရမည်။ "မြေငှားရမ်းသူ" က လက်ခံအတည်ပြုလျှင် မလွန်ဆန်နိုင်သော ဖြစ်ရပ်မြောက်ပြီး၊ မြေအသုံးချခွင့်နှင့် တိုက်ရိုက်သက်ဆိုင်သော ဖြတ်တောက်ကာလအပိုင်းအခြားအတွက် မြေငှားရမ်းခကို သက်သာခွင့်ပြုနိုင်သည်၊

၁၁။ ဤသဘောတူစာချုပ်နှင့်ပတ်သက်၍ အငြင်းပွားမှု တစ်စုံတစ်ရာပေါ်ပေါက်ပါက နှစ်ဦးနှစ်ဖက်ပြေလည်စွာညှိနှိုင်းဖြေရှင်းရမည်။ ထိုသို့ဖြေရှင်း၍မရပါက ဥပဒေနှင့်အညီ သက်ဆိုင်ရာစီရင်ပိုင်ခွင့်ရှိသော တရားရုံး၏ဆုံးဖြတ်ချက်ကို ခံယူရမည်။

၁၂။ ဤမြေငှားစာချုပ်တွင် မူလက မမျှော်မှန်းထားသော အခြေအနေတစ်ရပ်ရပ် (သို့မဟုတ်) အနေအထား တစ်ရပ်ရပ်ဖြစ်ပေါ်လာပါ၍ ဤမြေငှားစာချုပ်ကို ပြင်ဆင်ရန် (သို့မဟုတ်) ပြောင်းလဲရန်ပေါ်ပေါက်လာသည့်အခါ နှစ်ဖက်စာချုပ်ဝင်တို့သည် သင့်လျော်သည့်ပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်းနှင့် ဖြည့်စွက်ခြင်းများဆောင်ရွက်နိုင်ရန် သဘောရိုးဖြင့် ညှိနှိုင်းဆွေးနွေးရမည်။

၁၃။ ဤမြေငှားစာချုပ်ကို အောက်ပါအကြောင်းတစ်ရပ်ရပ် ပေါ်ပေါက်ပါက ရပ်စဲနိုင်သည်-

(က) လုပ်ငန်းတွင် ကြီးမားစွာ ဆက်တိုက်အရှုံးပေါ်ပေါက်နေခြင်း၊

(ခ) မြေငှားစာချုပ်ဝင်တစ်ဖက်ဖက်မှစာချုပ်ပါတာဝန်များဆောင်ရွက်ရန်ပျက်ကွက်ခြင်း၊

(ဂ) ကြိုတင်မမျှော်မှန်းနိုင်သည့်အပြင် ထားဆီးခြင်းလည်းမပြုနိုင်သော မလွန်ဆန်နိုင်သော ဖြစ်ရပ်များသည် တစ်ဆက်တည်း (၆)လထက် ကျော်လွန်ဖြစ်ပွားခြင်း၊

(ဃ) လုပ်ငန်း၏မူလရည်မှန်းချက်များကို အကောင်အထည်ဖော်နိုင်စွမ်း မရှိတော့ခြင်း၊

(င) မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြ၍ နှစ်ဦးနှစ်ဖက် သဘောတူညီချက်ဖြင့် မြေငှားစာချုပ်ကို ရပ်စဲခြင်း၊

၁၄။ ဤမြေငှားစာချုပ်တွင် မျှော်မှန်းမထားသောအခြေအနေများ ပေါ်ပေါက်လာခြင်းကြောင့် မြေငှားစာချုပ်ကို ပြင်ဆင်ရန်လိုအပ်ပါက မြေငှားစာချုပ်ဝင်များသည် နှစ်ဦးနှစ်ဖက်စာဖြင့် သဘောတူ ညှိနှိုင်းကြပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြ၍ သဘောတူညီချက်ရယူပြီးနောက် စာဖြင့်ရေးသား၍ ပြင်ဆင်ရမည်။ ထိုသို့ ပြင်ဆင်ချက်များကို ဤမြေငှားစာချုပ်၏ အစိတ်အပိုင်းတစ်ရပ်အဖြစ် ပါဝင်သည်ဟု မှတ်ယူရမည်။

၁၅။ မြေငှားစာချုပ်ဝင် တစ်ဦးတစ်ဖက်စီက အခြားတစ်ဦးတစ်ဖက်အား ၎င်းသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ တရားဥပဒေများအရဖွဲ့စည်း၍ အခွင့်အာဏာအပ်နှင်းခြင်းခံရသောတရားဝင်ရပ်တည်ခွင့်ရှိသူဖြစ်ပြီး၊ ၎င်းတွင် ဤမြေငှားစာချုပ်ကိုချုပ်ဆိုရန် အလို့ငှာ လုပ်ပိုင်ခွင့်၊ အာဏာ၊ ခိုင်မာသော ဘဏ္ဍာရေးရပ်တည်မှုနှင့် အခွင့်အာဏာရှိသူဖြစ်ကြောင်း ကိုယ်စားပြုအာမခံချက် ပေးပါသည်။

၁၆။ ဤမြေငှားစာချုပ်ကို ဆောင်ရွက်ရန်နှင့် အကောင်အထည်ဖော်ရန် အလို့ငှာ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ သက်ဆိုင်ရာ အစိုးရအာဏာပိုင်များထံမှ လိုအပ်သော သဘောတူခွင့်ပြုချက်များ ရရှိမှုပေါ်မူတည်သည်။



၁၇။ ဤမြေငှားစာချုပ်ဝင်များသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ တရားဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ စည်းကမ်းများ၊ ညွှန်ကြားချက်များ၊ ကျင့်ထုံးများနှင့်အညီ ဤမြေငှားစာချုပ်ကြောင့် ဖြစ်ပေါ်လာသော ဆောင်ရွက်ရန်တာဝန်များကို အကောင်အထည်ဖော် ဆောင်ရွက်ရမည်။

၁၈။ ဤမြေငှားစာချုပ်သည် ဤစာချုပ် အပိုဒ်(၁) တွင် ဖော်ပြထားသည့်နေ့မှ နှစ်ပေါင်း ၃၀ (သုံးဆယ်)နှစ် စေ့ရောက်ချိန်တွင် သက်တမ်းကုန်ဆုံးမည်ဖြစ်သည်။

၁၉။ ဤမြေငှားစာချုပ် သက်တမ်းကုန်ဆုံးပြီးနောက်တွင် ဆက်လက် မြေငှားရမ်းမည်ဆိုပါက မြေငှားစာချုပ်သက်တမ်းမကုန်ဆုံးမီ ၆ (ခြောက်) လ အတွင်း ကြိုတင်ညှိနှိုင်း၍ မြေငှားစာချုပ် သက်တမ်းတိုးမြှင့်ပေးရေးဆိုင်ရာ စည်းမျဉ်းစည်းကမ်း၊ နှုန်းထားများနှင့်အညီ မြေငှားစာချုပ် သက်တမ်းတိုးရန်ဖြစ်သည်။

၂၀။ ဤမြေငှားစာချုပ် သက်တမ်းတိုးမြှင့်ခြင်းမှာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ တစ်ဆင့် အစိုးရအဖွဲ့သို့ တင်ပြအတည်ပြုချက်ရရှိမှသာ အတည်ဖြစ်သည်။

၂၁။ ဤမြေငှားစာချုပ် သက်တမ်းကုန်ဆုံးချိန် (သို့မဟုတ်) ရပ်စဲချိန်တွင် တပ်ဆင်ထားသော စက်ကိရိယာများအပါအဝင် "မြေငှားချထားခြင်းခံရသူ" က ဆောက်လုပ်ထားသည့် အဆောက်အဦများကို ကောင်းမွန်စွာ ထိန်းသိမ်းထားသော အနေအထားအတိုင်း အဖိုးစားနားမပါဘဲ "မြေငှားရမ်းသူ" ပိုင်ပစ္စည်းအဖြစ် လွှဲပြောင်းပေးရမည်။ အကယ်၍ "မြေငှားရမ်းသူ" မှ ၎င်း အဆောက်အဦများ အားလုံးကိုသော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသကိုသော်လည်းကောင်း လက်ခံရန်ဆန္ဒမရှိလျှင် ထိုသို့လက်ခံနိုင်ခြင်းမရှိကြောင်း ညွှန်ကြားသည့် အဆောက်အအုံများကို "မြေငှားချထားခြင်းခံရသူ" ၏ တာဝန်နှင့် ကုန်ကျစရိတ်ဖြင့် လုံးဝဖယ်ရှားပေးရမည်။

သက်သေထင်ရှားစိမ့်သောငှာ၊ စာချုပ်ချုပ်ဆိုရာတွင် ပါဝင်သူများသည် လက်မှတ်ရေးထိုးကြပါ

( ၂၉ )ရက်နေ့၊ ဇူလိုင်လ၊ ၂၀၁၃ ခုနှစ်တွင် ဤမြေငှားစာချုပ်ကို လက်မှတ်ရေးထိုးကြပါသည်။

| | |
|---|---|
| (မြေငှားရမ်းသူ) | (မြေငှားချထားခြင်းခံရသူ) |
| ကိုယ်စားလက်မှတ်ရေးထိုးသူ | ကိုယ်စားလက်မှတ်ရေးထိုးသူ |
| (ချိုသန်းမောင်) | (ကျော်လင်း) |
| ဦးဆောင်ညွှန်ကြားရေးမှူး | ဒု-ဥက္ကဋ္ဌ |
| မြန်မာ့ဆိပ်ကမ်းအာဏာပိုင် | ကောင်းမြန်မာအောင်သင်္ဘောကုမ္ပဏီလီမိတက် |

အသိသက်သေများ

| | |
|---|---|
| အမည် - ဦးကျော်မြင့် | အမည် - ဦးဇော်ဝင်းအောင် |
| ရာထူး - အထွေထွေမန်နေဂျာ | ရာထူး - အထွေထွေမန်နေဂျာ |
| ဌာန - မြန်မာ့ဆိပ်ကပ်ကမ်းအာဏာပိုင် | ဌာန - ကောင်းမြန်မာအောင်သင်္ဘော ကုမ္ပဏီလီမိတက် |

ပူးတွဲ (၁)

# သီလဝါဆိပ်ကမ်း ဖွံ့ဖြိုးရေးစီမံကိန်း တည်နေရာပြပုံ



# လုပ်ငန်းစီမံကိန်းဖော်ပြချက်

## လုပ်ငန်းစီမံကိန်း

၁။ **စက်သုံးဆီတင်/ချ ဆိပ်ခံတံတား**

(က) ကောင်းမြန်မာအောင်သဘော်ာကုမ္ပဏီလီမိတက်သည် စက်သုံးဆီတင်/ချဆိပ်ခံတံတားကိုသီးခြားတည်ဆောက်ခြင်းမပြုတော့ဘဲ၊ IGE ကုမ္ပဏီလီမိတက်က တည်ဆောက်မည့် ဆိပ်ခံတံတားကို ငှားရမ်း၍ အသုံးပြုဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၂။ **အဆောက်အဦများ**

| | | |
|---|---|---|
| (က) | ရုံးအဆောက်အဦ | (၁၂၅. ၄၂) စတုရန်းမီတာ |
| (ခ) | စက်သုံးဆီသိုလှောင်ကန်များ (၁၁၅၀၀ တန်ဆံ့) | (၃) လုံး |
| (ဂ) | စက်သုံးဆီ ဖြန့်ဖြူးရေး အဆောက်အအုံများ | (၄၅၄. ၃၀) စတုရန်းမီတာ |
| (ဃ) | ပြုပြင်ထိန်းသိမ်းရေးအလုပ်ရုံ | (၂၂၂. ၉၇) စတုရန်းမီတာ |
| (င) | ပစ္စည်းသိုလှောင်ရုံ | (၂၂၂. ၉၇) စတုရန်းမီတာ |
| (စ) | လျှပ်စစ်ဓါတ်အားခွဲရုံ | (၇၄. ၃၂) စတုရန်းမီတာ |
| (ဆ) | ရေဖြန့်ဖြူးရေးအဆောက်အအုံများ | (၁) လုံး |
| (ဇ) | လုံခြုံရေး အဆောက်အအုံများ | (၇၈. ၉၆) စတုရန်းမီတာ |
| (ဈ) | အခြားအသုံးဆောင်နှင့်အဆောက်အအုံများ | (၁၆၄၄၃. ၂၂) စတုရန်းမီတာ |

နောက်ဆက်တွဲ (၃)

စီမံကိန်းအတွက် ရင်းနှီးမြှုပ်နှံမှုခန့်မှန်းကုန်ကျစရိတ်

| စဉ် | အမျိုးအမည် | ကျပ် (သန်းပေါင်း) |
|---|---|---|
| ၁ | အကြိုလုပ်ငန်းများ | ၃၁၈ |
| ၂ | မြေအသုံးချမှုပရီမီယံကြေး | ၃၇၀ |
| ၃ | ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်း | ၅ |
| ၄ | ဆီသိုလှောင်ကန်များ | ၂၂၆၅ |
| ၅ | အဆောက်အအုံများ | ၄၇၉ |
| ၆ | စက်ပစ္စည်းကိရိယာများ | ၉၇၀ |
| ၇ | ရေပေးဝေရေးစနစ် | ၁၅၀ |
| ၈ | လျှပ်စစ်ဖြန့်ဖြူးရေးစနစ် | ၁၇၀ |
| ၉ | အခြား | ၁၅၀၄ |
| ၁၀ | လည်ပတ်ငွေ | ၄၀၀၀ |
|  | စုစုပေါင်း | ၁၀၂၃၁ |

# MYANMA FOREIGN TRADE BANK

YANGON, MYANMAR

## LETTER OF GUARANTEE

DATED : - - 2013

NO :....................

TO

MYANMA PORT AUTHORITY
YANGON, MYANMAR

**PERFORMANCE BANK GUARANTEE NO.**.......................

In consideration of your having concluded the contract for the construction, operation and management of **KMA Fuel Tank Construction Project** in Thilawa Port area dated ......... with **KMA Shipping Co., Ltd** for the development of an Fuel Oil Terminal at Thilawa Port area and it being a condition of the contract that a performance guarantee of one percent (1%) of the estimated investment cost in Myanmar Kyats be established, we (**Co-operative Bank Ltd**) hereby irrevocably and unconditionally guarantee to pay you without delay on your first written demand through (**Co-operative Bank Ltd**) any amount claimed by you up to the extent of (Bank Guarantee Amount) against your written declaration that **KMA Shpping Co., Ltd** has refused or failed to execute or perform any of the material terms and conditions of the aforesaid contract including that the activities pertinent to the construction of Fuel Oil Terminal under **KMA Fuel Tank Construction Project** shall be commenced within 3 (three) months and the Fuel Oil Terminal shall be operational within 2 (two)years after the date of signing of the Contract. This guarantee shall remain valid until 2(two) years after the date of signing of the Contracts.

Signature : ...................

Designation : ...................

Bank : ...................




PROPOSE FUEL TERMINAL THILAWA

KAUNG MYANMAR AUNG SHIPPING COMPANY LIMITED

Tanks and Others

Roads




SECTIONAL ELEVATION




DETAIL - 1

OWNER/APPLICANT

KMA SHIPPING CO.,LTD.

| | |
|---|---|
| PROJECT | PROPOSED FUEL TERMINAL AT THILAWAR |
| LOT NO | - |
| BLOCK NO | - |
| | THANLYIN TOWNSHIP |
| SUBJECT | 1,500,000 GAL TANK ( 96'-0" Ø 35' HT VERTICAL TANK ) |
| SCALE | 1" = 16'-0" |
| SHEET NO. | L-3 |
| REV NO. | |

L.S

| DATE OF ISSUE | WIN HTET CO., Ltd. |
|---|---|
| 17 AUG 2012 | |




PILE LAYOUT PLAN




REMARK

ALL PILES ARE 200X200 PILES

WORKING LOAD IS 30 TONN

PILES ARE TO BE PUSHED MIN 2 TIMES

WORKING LOAD

MIN CONCRETE STRENGTH IS GRADE 45

MIN YIELD STRENGTH OF REBAR IS 50 ksi

MIN REBAR SHALL BE 4 nos T 16

| | |
|---|---|
| OWNER/APPLICANT | KMA SHIPPING CO.,LTD. |
| PROJECT | PROPOSED FUEL TERMINAL AT THILAWAR |
| LOT NO | |
| BLOCK NO | |
| | THANLYIN TOWNSHIP |
| SUBJECT | 1,500,000 GAL TANK (96'-0" Ø 35' HT VERTICAL TANK) |
| SCALE | 1" = 24'-0" |
| SHEET NO. | L-2 |
| REV NO. | |
| LS | |
| DATE OF ISSUE | 17 AUG 2012 |
| | WIN HTET CO., Ltd |

(0mm BOTTOM PLATE
16 mmSHELL PLATE
12 mmSHELL PLATE 20'X5' 15 nos
10 mmSHELL PLATE 20'X5' 30 nos
8 mmSHELL PLATE 20'X5' 30 nos
4.5mmROOF PLATE 20'X5' 30 nos



BASE PLATE PLAN







SHELL PLATE PLAN




ROOFING DETAIL




DETAIL-1




DETAIL-2

| | |
|---|---|
| OWNER/APPLICANT | KMA SHIPPING CO.,LTD. |
| PROJECT | PROPOSED FUEL TERMINAL<br>AT<br>THILAWAR |
| | LOT NO |
| | BLOCK NO |
| | THANLYIN TOWNSHIP |
| SUBJECT | 1,500,000 GAL TANK<br>( 96'-0" Ø 35' HT VERTICAL TANK ) |
| SCALE | 1" = 28'-0" |
| SHEET NO. | L-1 |
| REV NO. | |
| L.S | |
| DATE OF ISSUE | 17 AUG 2012 |

WIN HTET CO., Ltd.

DATED :

KAUNG MYANMAR AUNG SHIPPING COMPANY LIMITED

and

KMA SIAM LIMITED

# SUBLEASE AGREEMENT

<u>SUBLEASE AGREEMENT</u>

THIS AGREEMENT made and entered into as of the ............ day of ..............................
...............by and between

KAUNG MYANMAR AUNG SHIPPING COMPANY LIMITED, a company duly incorporated and existing under the laws of the Republic of Union of Myanmar and having its principal place of business at # 225-227, Olympic Tower, Room No. 304, 305, 306, Corner of Mahabandoola & Bo Aung Kyaw Road, Kyaukatada Township, Yangon, Myanmar ("KMA") on the one part; and

KMA SIAM LIMITED (the "Company"), a company duly incorporated and existing under the laws of the Republic of Union of Myanmar and having its principal place of business at # 225-227, Olympic Tower, Room No. 304, 305, 306, Corner of Mahabandoola & Bo Aung Kyaw Road, Kyaukatada Township, Yangon, Myanmar (the "Company") on the other part

WITNESSETH

WHEREAS, the Company has been incorporated and desirous of to construct and operate LPG import terminal and bottling plant and trading as the joint venture company of KMA and Siamgas Global Investment Pte. Ltd. ("SIAM", and KMA and SIAM are sometimes called the "JVA Parties"), a Singapore company, pursuant to a joint venture agreement dated 1st June 2017 (the JVA") between the JVA Parties;

WHEREAS, the JVA Parties have agreed in the JVA that the capital contributions to the Company will be made (i) by KMA as otherwise in cash by subleasing to the Company an agreed area within the plot of land (the "Leased Land") leased to KMA by the Ministry of Transport and Communications (the "Lessor") pursuant to the Lease of Land dated 29th July, 2013 (the "Lease of Land") between the "Lessor" and KMA and (ii) by SIAM in cash;

WHEREAS, the JVA Parties intend in the JVA, among others, to cause the Company to construct and operate LPG import terminal and bottling plant and Trading (the LTT) with such specifications and capabilities as shall be agreed upon between the JVA Parties and for the purpose the premises for the LTT will be provided by KMA within the Leased

Land as subleased land;

WHEREAS, the JVA Parties have agreed in the Contributed Land Area Identification Ground Plan between the JVA Parties that the area with 7.5 Acres (30,351.45 $m^2$) (the "Subleased Land Area"), located in Land Plot No. 31/32 (C), Thilawa Port Area, Tanlyin-Kyauktan Area, Yangon Region, Myanmar and identified in the ground plan of the Leased Land attached, will be subleased by KMA to the Company for the construction and operations of the LTT;

WHEREAS, the "Lease of Land" provides, among others, that, unless the prior written approval of the "Lessor" is obtained, the Leased Land shall not be divided and part of it shall not be transferred or subleased; and

WHEREAS, KMA filed an application with the "Lessor" for approval in writing of the proposed Sublease (as defined below) and such approval for the Sublease as above contemplated has been granted by the "Lessor".

NOW, THEREFORE, KMA and the Company agree as follows:

SECTION 1 SUBLEASE

KMA hereby subleases the Subleased Land Area to the Company and the Company hereby subleases from KMA the Subleased Land Area in accordance with the terms as hereinafter provided (such subleasing being the "Sublease"). The Subleased Land Area shall be located within the Leased Land identified in **Annexe-1** attached hereto and so identified as the area surrounded by the blue line in the ground plan of the Subleased Land attached hereto as **Annexe-2.**

SECTION 2 RENT

The aggregate rent payable for the Sublease of the Subleased Land Area in respect of the Lease Term (as defined in Section 3) shall be USD 5,277,000 (which is equivalent to USD 5.795 per square meter per year multiplied by 30), which shall be deemed fully paid and discharged by the Company upon issuance of shares of the Company which is equivalent in the aggregate to such amount of rent in favor of KMA. KMA shall indemnify and hold the Company from and against any and all liabilities in respect of any tax which may be imposed by the Republic of Union of Myanmar or any taxing authority therein or thereof on any rental payable or in respect of the Sublease or use by the Company of

the Subleased Land Area.

SECTION 3 TERM OF SUBLEASE AND TERMINATION

1 The term (the "Sublease Term") of Sublease shall commence as from the date of this Sublease Agreement and shall continue to remain in force, for a term of 30 years, provided that with the approval of the Lessor and the Myanmar Investment Commission.

2 Notwithstanding the provisions of the preceding subsection, the Company may by written notice to KMA terminate the Sublease at any time if and when the Company ceases to operate the LTT.

3 In the event that the Sublease will be terminated for whatever reason, KMA and the Company will negotiate and agree on the removal or other disposal of the LTT.

SECTION 4 REPRESENTATIONS AND WARRANTIES OF KMA

KMA represents and warrants to the Company that:

(a) the "Lease of Land" a copy of which has heretofore been delivered to the Company by KMA was duly executed by the "Lessor" and KMA by their respectively duly authorised representatives and the execution and delivery of the "Lease of Land" have been duly authorized by the "Lessor" and KMA, respectively, by their respective corporate actions;

(b) no approval of any regulatory authorities has been required for the execution and delivery of the "Lease of Land";

(c) no amendment has been made to the "Lease of Land" after the execution thereof;

(d) the "Lease of Land" has been duly performed by the "Lessor" and KMA, respectively, in accordance with the terms thereof;

(e) the Sublease and the terms of this Sublease Agreement have been approved by the "Lessor" attached hereto as **Annexe-3.**

(f) each of KMA and the Company is not required to erect upon the Leased Land the LTT within three (3) months from the date of the "Lease of Land" or (where applicable) this Sublease Agreement; and

(g) the Company will be entitled to use the Subleased Land Area for the construction and operations of the LTT and not for residential purpose.

SECTION 5 COVENANTS

KMA covenants to the Company that

(a) it will duly perform its obligations (including, without limitation, those of punctual payments of rents payable to the "Lessor") under the terms of the "Lease of Land" the failure in the performance of which would invite the termination by the "Lessor" of the "Lease of Land";

(b) it will not terminate or otherwise cease to be in effect of the "Lease of Land"; and

(c) it will not agree with the "Lessor" to revise in whatever manner the terms of the "Lease of Land" without the prior written consent of the Company.

2 The Company covenants to KMA that it will duly perform its obligations under the terms of the Sublease Agreement, the failure in the performance of which would invite the termination by the "Lessor" of the "Lease of Land".

SECTION 6 INDEMNIFICATION

Each party hereto shall indemnify and hold the other party hereto harmless from and against any loss, damage, liability, cost or expense whatsoever on full indemnity basis arising out of or in connection with (i) failure by such indemnifying party in the performance of its obligations (including failure by such indemnifying party in the performance of its covenants) under this Agreement or (ii) any of the indemnifying party's representations and warranties being not true in any material respect when made.

SECTION 7 NON-ASSIGNMENT AND SUBLEASING

The Company shall not assign, sub-lease or otherwise part of the possession of the "Subleased Land Area", either by way of subletting, lending, sharing or other means whereby any person or persons not a party to this Sublease Agreement obtains the use or possession of the Subleased Land Area or any part thereof.

SECTION 8 APPLICABLE LAWS AND SETTLEMENT OF DISPUTES

This Agreement shall be governed by and construed in accordance with the existing laws, rules, and regulations of the Republic of the Union of Myanmar. Both parties shall amicably settle any claims, disputes and matters of difference between the parties arising out of or in connection with this Agreement or arising from this Agreement. If such amicable settlement cannot be reached, such dispute shall be finally settled in Yangon, the Republic of the Union of Myanmar by arbitration in accordance with the

existing Myanmar Arbitration Law (2016). Arbitration shall take place in Yangon, the Republic of the Union of Myanmar, in English language, and if both parties agree, in the vernacular. Each party shall appoint an arbitrator each, and the two arbitrators shall appoint an umpire. The award rendered by the arbitrators shall be final binding on both parties.

IN WITNESS WHEREOF, the parties have caused this Agreement to be executed by their duly authorised representatives as of the day first above written.

KAUNG MYANMAR AUNG SHIPPING COMPANY LIMITED

By: ______________________________

Name: U Tin Maung Htwe

Title: Vice Chairman

KMA SIAM LIMITED

By: _________________________

Name: Mr. Supachi Weeraborwornpong

Title: Managing Director

ပူးတွဲ (၁)

# သီလဝါဆိပ်ကမ်း ဖွံ့ဖြိုးရေးစီမံကိန်း တည်နေရာပြပုံ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ပဆ-(၃)/(KMA-MPA)/၂၀၁၇(၁၆၄ )
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ နိုဝင်ဘာလ ၂၂ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ ကောင်းမြန်မာအောင်သင်္ဘောကုမ္ပဏီလီမိတက်အား သီလဝါဆိပ်ကမ်းဒေသတွင် ဖက်စပ်စနစ်ဖြင့် LPG Terminal and Bottling Plant တည်ဆောက်လုပ်ကိုင်ခွင့်ပြုရန်အတွက် တင်ပြလာခြင်း ကိစ္စ

၁။ ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်းဒေသ၊မြေကွက်အမှတ်၊ ၃၁၊ ၃၂(စီ)၏ စုစုပေါင်းမြေဧရိယာ ၂၄.၇၁ ဧကအနက် မြေဧရိယာ ၇.၅ ဧကတွင် ကောင်းမြန်မာအောင်သင်္ဘောကုမ္ပဏီလီမိတက်အနေဖြင့် စင်ကာပူ နိုင်ငံအခြေစိုက် Siam Gas Global Investment Pte., Ltd နှင့် ပူးပေါင်း၍ LPG Terminal and Bottling Plant ကို အမေရိကန်ဒေါ်လာ ၁၅ သန်းကျော် မတည်ရင်းနှီး၍ အကောင်အထည်ဖော် တည်ဆောက်သွားရန် ရှိပါသဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြပေးနိုင်ပါရန် ကောင်းမြန်မာအောင်သင်္ဘောကုမ္ပဏီလီမိတက်မှ နောက်ဆက်တွဲ(က) ပါစာဖြင့် တင်ပြလာပါသည်။

၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ဖြင့် ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် ကောင်းမြန်မာအောင်သင်္ဘောကုမ္ပဏီလီမိတက်တို့အကြား မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှပိုင်ဆိုင်သော သီလဝါဆိပ်ကမ်းနယ်မြေ မြေကွက်အမှတ်၊ ၃၁၊ ၃၂(စီ)တွင် စက်သုံးဆီသိုလှောင်ကန်နှင့် အထောက်အကူပြုအဆောက်အအုံများ တည်ဆောက်ခွင့်ပြုပြီး၊ သိုလှောင်ဖြန့်ဖြူးခြင်းဝန်ဆောင်မှု လုပ်ငန်းများအားဆောင်ရွက်ခွင့်ပြုခြင်းနှင့်ပတ်သက်၍ သဘောတူစာချုပ်များကို ၂၉-၇-၂၀၁၃ ရက်နေ့တွင် လက်မှတ်ရေးထိုးထားပါသည်။

၃။ ထိုကဲ့သို့ လုပ်ငန်းလုပ်ကိုင်ခွင့်ပြုထားခြင်းအတွက် မြေအသုံးချမှုပရီမီယံကြေး ငွေကျပ် ၃၇၀,၆၅၀,၀၀၀/ (ကျပ် သုံးရာခုနစ်ဆယ်သန်းခြောက်သိန်းငါးသောင်းတိတိ) ကို လည်းကောင်း၊ လစဉ်မြေငှားရမ်းခ ငွေကျပ် ၁၃,၃၅၆,၇၅၇/- (ကျပ် တစ်ဆယ့်သုံးသန်း သုံးသိန်းငါးသောင်းခြောက်ထောင် ခုနစ်ရာငါးဆယ့်ခုနစ် တိတိ)ကိုလည်းကောင်း မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သို့ ပေးဆောင်ရန် သတ်မှတ်ထားပြီး မြေငှားရမ်းကာလ/လုပ်ငန်းလုပ်ကိုင်ခွင့်ကာလ ၃၀ နှစ် ခွင့်ပြုသည့် BOT စနစ်ဖြင့် ခွင့်ပြုထားပါသည်။

၄။ ကောင်းမြန်မာအောင် သဘော်ာကုမ္ပဏီလီမိတက်သည် မြေအသုံးချမှုပရီမီယံကြေး ငွေကျပ် ၃၇၀,၆၅၀,၀၀၀/ (ကျပ်သုံးရာ့ခုနှစ်ဆယ်သန်းခြောက်သိန်းငါးသောင်းတိတိ) ကို ပေးဆောင်ထားပြီး ဖြစ်ပါသည်။ လစဉ်မြေငှားရမ်းခ ငွေကျပ် ၁၃,၃၅၆,၇၅၇/-နှုန်းဖြင့် ၂၀၁၇ ခုနှစ်၊ ဒီဇင်ဘာလ အထိ ပေးဆောင်ထားပြီးဖြစ်ပါသည်။

၅။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်အရ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် ကောင်းမြန်မာအောင်သဘော်ာကုမ္ပဏီလီမိတက်တို့အကြား ချုပ်ဆိုထားသော သဘောတူစာချုပ်တွင် (၁၁၅၀၀)တန်ဆံ့ စက်သုံးဆီသိုလှောင်ကန် (၃) လုံးတည်ဆောက်ရန် တင်ပြထားပါသည်။ သို့ရာတွင် ယခုအခါ ဂါလန်(၂)သန်းဆံ့ ဒီဇယ်ဆီသိုလှောင်ကန်(၁)လုံး၊ ဂါလန်(၂)သန်းဆံ့ အောက်တိန်းဆီ သိုလှောင်ကန်(၁)လုံး၊ ဂါလန်(၅၀၀၀၀)ဆံ့ ဒီဇယ်ဆီသိုလှောင်ကန်(၁)လုံး၊ ဂါလန်(၅၀၀၀၀)ဆံ့ အောက်တိန်းဆီ သိုလှောင်ကန်(၁)လုံးတို့ ပါဝင်သော စုစုပေါင်း ဆီသိုလှောင်ကန်(၄)လုံး၊ Pump House(၂)ခု၊ ဆီဖြည့်အဆောက်အအုံ (၁)လုံးနှင့် ရုံးအဆောက်အဦတို့ကို တည်ဆောက်ထားပြီး ဖြစ်ကြောင်း တင်ပြထားပါသည်။

၆။ ယခုအခါ ဆီသိုလှောင်ကန်များမှာ ဈေးကွက်လိုအပ်ချက်တစ်ရပ် ပြည့်မီကျော်လွန်နေပြီ ဖြစ်သဖြင့် မြေကွက်အမှတ်၊ ၃၁၊ ၃၂ (စီ) ၏ စုစုပေါင်းမြေဧရိယာ ၂၄.၇၁ ဧကအနက် မြေဧရိယာ ၇.၅ ဧကတွင် စင်ကာပူနိုင်ငံအခြေစိုက် Siam Gas Global Investment Pte . Ltd နှင့် ပူးပေါင်းကာ LPG Terminal and Bottling Plant ကို အမေရိကန်ဒေါ်လာ ၁၅ သန်းကျော် မတည်ရင်းနှီး၍ နိုင်ငံခြားဖက်စပ်စနစ်ဖြင့် အကောင်အထည်ဖော်တည်ဆောက်သွားရန် တင်ပြထား ပါသည်။

၇။ ထိုကဲ့သို့ တင်ပြထားခြင်းကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မူလက ကောင်းမြန်မာအောင်သဘော်ာကုမ္ပဏီလီမိတက်အား စက်သုံးဆီသိုလှောင်ကန်များနှင့် ဖြန့်ဖြူးရေး အဆောက်အအုံများကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ခွင့်ပြု ထားခြင်း ဖြစ်ပါသည်။

၈။ ကောင်းမြန်မာအောင်သဘော်ာကုမ္ပဏီလီမိတက်အနေဖြင့် စင်ကာပူနိုင်ငံအခြေစိုက် Siam Gas Global Investment Pte.. Ltd နှင့် ပူးပေါင်း၍ သီလဝါဆိပ်ကမ်းဒေသ၊ မြေကွက်အမှတ်၊ ၃၁၊ ၃၂(စီ)၏ စုစုပေါင်းမြေဧရိယာ ၂၄.၇၁ ဧကတွင် LPG Terminal and Bottling Plant ကို အမေရိကန်ဒေါ်လာ ၁၅ သန်းကျော် မတည်ရင်းနှီး၍ အကောင်အထည်ဖော် တည်ဆောက်သွားမည် ဖြစ်ရာ နိုင်ငံတော်အတွင်း နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုငွေများ ပိုမိုစီးဝင်လာမည်ဖြစ်ပြီး သီလဝါ ဆိပ်ကမ်းဒေသတွင် LPG Terminal တစ်ခု ပေါ်ထွန်းလာမည်ဖြစ်သည့်အပြင် အလုပ်အကိုင် အခွင့်အလမ်းများ ပိုမိုဖန်တီးပေးနိုင်မည်ဖြစ်ပါသည်။

၉။ သီလဝါကမ်းနားဒေသတွင် LPG Terminal and Bottling Plant ကို အကောင်အထည်ဖော် တည်ဆောက်ခွင့်ပြုမည်ဆိုပါက LPG Storage Tank များ တည်ဆောက်သည့်အခါ လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန ရေနံထွက်ပစ္စည်းများ တင်သွင်းသိုလှောင်ချက်လုပ်ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်းများ ထိန်းသိမ်းကြီးကြပ်ရေးကော်မတီ၏ စည်းကမ်းသတ်မှတ်ချက်များ၊ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနရှိ သတ္တုတွင်းဦးစီးဌာန၏ သဘောထားမှတ်ချက်၊ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၏ သဘောထားမှတ်ချက်တို့နှင့်အညီ ဆောင်ရွက်ရန်လိုအပ်မည် ဖြစ်ပါသည်။

၁၀။ သို့ဖြစ်ပါ၍ ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်း ဒေသ၊ မြေကွက်အမှတ်၊ ၃၁၊ ၃၂(စီ)၏ စုစုပေါင်း မြေဧရိယာ ၂၁.၇၁ ဧကတွင် ဝင်ကာပူနိုင်ငံ အခြေစိုက် Siam Gas Global Investment Pte., Ltd နှင့်ပူးပေါင်း၍ LPG Terminal and Bottling Plant ကို အမေရိကန်ဒေါ်လာ ၁၅ သန်းကျော် မတည်ရင်းနှီး၍ နိုင်ငံခြားဖက်စပ်စနစ်ဖြင့် အကောင်အထည်ဖော် တည်ဆောက်လုပ်ကိုင်ခွင့်ပြုနိုင်ပါရန် ကောင်းမြန်ပေအောင်သဘောကုမ္ပဏီ လီမိတက်မှ တင်ပြထားခြင်းအား ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာနအနေဖြင့် ထောက်ခံ တင်ပြအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
ဝင်းခိုင် - အမြဲတမ်းအတွင်းဝန်

မိတ္တူကို -

- မြန်မာ့ဆိပ်ကမ်းအာဏာပိုင်
- ရုံးလက်ခံ
- မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန

# ကုမ္ပဏီမှတ်ပုံတင်လက်မှတ် (ယာယီ)

အမှတ် ...၄၁၀ အက်ဖ်စီ.../...၂၀၁၇–၂၀၁၈ (ရက)

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ ကေအမ်အေဆိုင်ယမ် လီမိတက်........... ..................................အား ပေးရန်တာဝန် ကန့်သတ်ထားသော လီမိတက် ကုမ္ပဏီအဖြစ် ..၂၀၁၇ခုနှစ်၊ ........ဩဂုတ်.......လ၊ ၈...ရက်နေ့တွင် မှတ်ပုံတင်ခွင့်ပြုလိုက်သည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(နီလာမူ၊ ညွှန်ကြားရေးမှူး)
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

THE GOVERNMENT OF THE REPUBLIC OF THE UNION OF MYANMAR
MINISTRY OF PLANNING AND FINANCE

# CERTIFICATE OF INCORPORATION (TEMPORARY)

NO. ..............410 FC...... of .........2017-2018 (YGN)

I hereby certify that ...............KMA SIAM LIMITED................................ ........................................................................................ is incorporated under the Myanmar Companies Act as a Limited Company on the ...............EIGHTH................................. day of .............AUGUST,.............................. .................TWO THOUSAND AND SEVENTEEN.........................................................

**For Director General**
**(Nilar Mu - Director)**

Directorate of Investment and Company Administration

ဤကုမ္ပဏီ မှတ်ပုံတင် လက်မှတ်(ယာယီ)သည် မှတ်ပုံတင်ရက်စွဲ (၈-၈-၂၀၁၇) မှ (၇-၂-၂၀၁၈) ရက်နေ့အထိ (၆)လသက်တမ်း အတွက်သာ ဖြစ်သည်။ ယာယီသက်တမ်း မကုန်ဆုံးမီ အမြဲတမ်းမှတ်ပုံတင် လက်မှတ် (မူရင်း)နှင့် လဲလှယ်ရမည်ဖြစ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(သက်ပိုင် ၊ဒုတိယညွှန်ကြားရေးမှူး)

Issued Date:

THE GOVERNMENT OF THE REPUBLIC OF THE UNION OF MYANMAR
MINISTRY OF PLANNING AND FINANCE

# FORM 1

## FORM OF PERMIT (TEMPORARY)

**(See section 27 A)**

Permit No. 410FC / 2017-2018 (YGN)

Date 8th August 2017

The Ministry of Planning and Finance of the Government of the Republic of the Union of Myanmar in pursuance of the Myanmar Companies Act hereby grants a permit to the KMA SIAM LIMITED in respect of which particulars are detailed below, to carry on its business within the Republic of the Union of Myanmar subject to the provisions contained in the said Act.

| | | |
|---|---|---|
| (1) | Name of the Company | KMA SIAM Ltd. |
| (2) | Country of incorporation of the company. | The Republic of the Union of Myanmar. |
| (3) | Location of the company's Head Office and / or Principal Office in the Republic of the Union of Myanmar. | Room No.304, 305,306, 3rd Floor, Corner of Maha Bandoola & Bo Aung Kyaw Street, ~~Kyauktada Township, Yangon.~~ |
| (4) | The object for which the company is formed (field of business). | Mentioned in back page. |
| (5) | (a) The amount of Capital and the number of shares into which the Capital is divided. | USD 15,077,000 divided into 1,507,700 shares of USD 10 each. |
| | (b) If more than one class of shares is authorised, the description of each class. | Only one class. |
| (6) | The names, addresses and nationality of the directors. | As per List attached. |
| (7) | The maximum amount of indebtedness which may be incurred by the company and also a prohibition against the contracting of debts in excess of that amount. | As per conditions attached. |
| (8) | Period of validity of permit. | August 8, 2017 to February 7, 2018. (SIX MONTHS) |
| (9) | Statement of compliance with legal requirements for issue of Capital including the amount to be paid in before business is commenced. | As per conditions attached. |
| (10) | Statement of compliance with such conditions as may be prescribed. | The conditions attached to the permit and conditions as may be prescribed from time to time are also to be strictly adhered to by the company. |

By order

**For Director General**
**(Nilar Mu- Director)**

**Directorate of Investment and Company Administration**

The business objectives mentioned in the Memorandum of Association shall be allowed to perform.If it is necessary, permit or license from relevant Union Ministries, Departments and Organizations of the Republic of the Union of Myanmar must be obtained in accordance with existing laws, rules and regulations.

To Construct and operate a bulk terminal and bottling plant in Thilawa.
To Carry importation/ storage/trading/packing/distributuion and sale in Myanmar of Liquid petroleum Gases (LPG)

For Director General
(Thet Paing - Deputy Director)

Issued Date:

045…

FORM VI

# RETURN OF ALLOTMENTS
# THE MYANMAR COMPANIES ACT.

(See Section 104)

(To be filed with the Registrar within one month after the allotment is made)

Return of allotment from the 4th of SEPTEMBER 2017

on the of 20 of the * KMA SIAM LTD .

Made pursuant to Section 104 (1)

Number of the shares allotted payable in cash .................. 15000 SHARES

" " " " ..................

Nominal amount of the shares so allotted .................. USD.150,000/-

" " " " ..................

Amount paid or due and payable on cash such share .................. USD.10/-

" " " " .................. ( FULLY PAID UP )

Number of ordinary shares allotted for a consideration other than cash -

Nominal amount to be ordinary shares so allotted ..................

Amount to be treated as paid on each such share ..................

The consideration for which such share have been allotted is as follow : -

---

**NOTE** In making a return of allotments under Section 104 (1) the Myanmar Companies Act., it is to be noted that -

1. When a return include several allotments made on different dates, the actual date of only the first and last of such allotment should be entered at the tip of the front page, and the registration of the return should be effected within one month of the first date.

2. When a return relates to one allotment only, made on one particular date, that date only should be inserted and the spaces for the second date struck out and the world made substituted for the world "From" after the world "allotments" above.

Here insert name of Company.

Distinguish between preference, ordinary, or other description of shares.

**Presented for filing by :** MR.SUPACHAI WEERABORWORNPONG (M.D)

Name, Address and Description of Allotees

| Name & N.R.C No | Address | Description | Number of the shares allotted | |
|---|---|---|---|---|
| | | | Preference | Ordinary |
| 1. SIAMGAS GLOBAL INVESTMENT PTE LTD. | 50,EAST COAST ROAD , #02-127,ROXY SQUARE SINGAPORE(428769) | INCORPARATED IN SINGAPORE | | 9750 SHARES |
| REPRESENTED BY | | | | |
| (a) MR.SUPACHAI WEERABORWORNPONG PP NO.AA7914814 | 85,SUKHUMVIT ROAD, KLONGTOEY NUEY WATTANA,BANGKOK THAILAND. | MERCHANT | | |
| (b) MR.SOMCHAI KO-PRASOBSUK PP NO.AA5537513 | 9/53,SUPALAI PREMIER RATCHADA, 7th FLOOR, ROOM-53,RATCHADAPISEK ROAD,BANGKOK 10120 THAILAND. | MERCHANT | | |
| 2. KMA SHIPPING CO.,LTD. | ROOM NO.(304),(305) (306),3rd FLOOR , CORNER OF MAHA BAN-DOOLA & BO AUNG KYAW STREET,KYAUKTADA TOWNSHIP, YANGON. | INCORPATED IN MYANMAR | | 5250 SHARES |
| REPRESENTED BY | | | | |
| (a) U SWE LYNN 12/PA BA TA(N) 026941 | NO.RV 7,RIVER VIEW GARDEN,27th WARD , NORTH DAGON TOWNSHIP YANGON. | MERCHANT | | |
| | | | TOTAL: | 15000 SHARES |

Signature

Date 4.9.2017

SWE LYNN
DIRECTOR
KMA SIAM LIMITED

FORM VI

056753

# FORM XXVI

## PARTICULARS OF DIRECTORS, MANAGERS AND MANAGING AGENTS AND OF ANY CHANGES THEREIN

( Myanmar Companies Act, See Section 87 )

Name of Company : KMA SIAM LTD.

Presented by : MR.SUPACHAI WEERABORWORNPONG(M.D)

| The Present Christian name or names of surnames | Nationality, National Registration Card No. | Usual Residential Address | Other Business Occupation | Changes |
|---|---|---|---|---|
| 1. MR.SUPACHAI WEERABORWORN-PONG | THAILAND PP NO.AA7914814 | 85 SUKHUMVIT ROAD,KLONGTOEY NUEY WATTANA , BANGKOK THAILAND. | MERCHANT | APPOINTED AS MANAGING DIRECTOR w.e.f(4.9.2017) |
| 2. MR.SOMCHAI KO-PRASOBSUK | THAILAND PP NO.AA5537513 | 9/53 SUPALAI PREMIER RATCHADA,7th FLOOR.ROOM 53,RATCHADAPISEK ROAD.BANGKOK 10120 | MERCHANT | APPOINTED AS DIRECTOR w.e.f(4.9.2017) |
| 3. U SWE LYNN | MYANMAR 12/PA BA TA(NAING) 026941 | NO.RV 7,RIVER VIEW GARDEN, 27th WARD,NORTH DAGON TOWNSHIP,YANGON. | MERCHANT | APPOINTED AS DIRECTOR w.e.f(4.9.2017) |

NOTE : (1) A Complete list of the Directors or Managers or Managing Agents shown as existing in the last particulars.

(2) A note of the changes since the last list should be made in the column for "Changes" by placing against the new Director's name the word "in place of ............................ and by writing against any former Director's name the the word "dead" "resigned" or as the case may be giving the date of change against the entry.

Signature ..............................

Designation ..................SWE LYNN........

DIRECTOR

KMA SIAM LIMITED

Dated this 4.9.2017

Form (26)

SWE LYNN

IRECTOR

KMA SIAM LIMITED

4.9.17

မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ

**အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ**

# ကေအမ်အေဆိုင်ယမ် **ကုမ္ပဏီ လီမိတက်**

၏

## သင်းဖွဲ့မှတ်တမ်း

နှင့်

## သင်းဖွဲ့စည်းမျဉ်းများ

❖ ❖ ❖ ❖

**THE MYANMAR COMPANIES ACT**

**PRIVATE COMPANY LIMITED BY SHARES**

# Memorandum Of Association

*AND*

# Articles Of Association

*OF*

# KMA SIAM **LIMITED**

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့်ကုမ္ပဏီ

# ကေအမ်အေဆိုင်ယမ်လီမိတက်

၏

# သင်းဖွဲ့မှတ်တမ်း

က က က က က

၁။ ကုမ္ပဏီ၏အမည်သည် **"ကေအမ်အေဆိုင်ယမ်လီမိတက်"** ဖြစ်ပါသည်။

၂။ **ကုမ္ပဏီ**၏ မှတ်ပုံတင် အလုပ်တိုက်သည် ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

၃။ **ကုမ္ပဏီ** တည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ တစ်ဖက်စာမျက်နှာပါအတိုင်း ဖြစ်ပါသည်။

၄။ **အစုဝင်များ**၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

၅။ **ကုမ္ပဏီ**၏သတ်မှတ်မ,တည်ငွေရင်းသည် အမေရိကန်ဒေါ်လာ ၁၅,၀၇၇,၀၀၀/- (**အမေရိကန်ဒေါ်လာတစ်ဆယ့်ငါးသန်းခုနစ်သောင်းခုနစ်ထောင်တိတိ**) ဖြစ်၍ အမေရိကန်ဒေါ်လာ ၁၀/- (**အမေရိကန်ဒေါ်လာတစ်ဆယ်တိတိ**)တန် အစုရှယ်ယာပေါင်း (၁,၅၀၇,၇၀၀) ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေပြဋ္ဌာန်းချက် များနှင့် အညီ [illegible]ပေါင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့်အာဏာ ရှိစေရမည်။

၆။ ကုမ္ပဏီတည်ထောင်ရခြင်း၏ရည်ရွယ်ချက်များမှာ

၁။ နိုင်ငံတော်အစိုးရကခွင့်ပြုထားသော အောက်ဖော်ပြပါဝန်ဆောင်မှုလုပ်ငန်းများကို မိမိတစ်ဦးတည်း ဖြစ်စေ၊ မည်သည့်ပြည်တွင်း၊ပြည်ပပုဂ္ဂိုလ်များနှင့် ဖက်စပ်၍ဖြစ်စေလုပ်ကိုင်ဆောင်ရွက်ရန်။

(က) သီလဝါအထူးစီးပွားရေးဇုန်အတွင်း LPG ဓါတ်ငွေ့ရည်ဖြည့်သိုလှောင်ခြင်း လုပ်ငန်းများအား / ကုန်သွယ်မှုလုပ်ငန်းများ / ကြိုးမားစွာသိုလှောင်၍အတင်/အချပြုနိုင်သောစခန်းနှင့်ဓါတ်ငွေ့ရည် ဖြည့်အိုးဆောက်ရုံတည်ဆောက်ခြင်းနှင့်လုပ်ငန်းလည်ပါတ်ခြင်း
(ခ) ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်းတွင် LPG ဓါတ်ငွေ့များကိုပြည်ပမှတင်သွင်းခြင်း၊ သိုလှောင်ခြင်း၊ကုန်သွယ်မှုပြုခြင်း၊ထုတ်ပိုးခြင်း၊ဖြန့်ချီခြင်းနှင့်ရောင်းချခြင်းလုပ်ငန်းတို့ ဖြစ်ကြပါသည်။

၂။ ကုမ္ပဏီမှသင့်တော်လျောက်ပတ်သည်ဟုယူဆပါကကုမ္ပဏီ၏စီးပွားရေးလုပ်ငန်းတွင်အကျိုးရှိစေရန်အတွက်မည်သည့်ပုဂ္ဂိုလ်၊စီးပွားရေးအဖွဲ့အစည်း၊ကုမ္ပဏီ၊ဘဏ်၊သို့မဟုတ်၊ငွေကြေးအဖွဲ့အစည်း ထံမှမဆိုငွေချေးယူရန်။

ခြွင်းချက်။ ။ကုမ္ပဏီသည်အထက်ဖော်ပြပါရည်ရွယ်ချက်များကို ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အတွင်း၌ဖြစ်စေ၊ အခြားမည်သည့်အရပ်ဒေသ၌ဖြစ်စေ၊ အချိန်ကာလအလိုက် တည်မြဲနေသောတရားဥပဒေများ၊အမိန့်ကြော်ငြာစာများ၊အမိန့်ကခွင့်ပြုထားသည့် လုပ်ငန်းများမှအပအခြားလုပ်ငန်းများကိုလုပ်ကိုင်ဆောင်ရွက် ခြင်းမပြုပါ။ ထို့အပြင် ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အတွင်း၌အချိန်ကာလအားလျော်စွာ တည်မြဲနေသည့် တရားဥပဒေပြဋ္ဌာန်းချက်များ၊အမိန့်ကြော်ငြာစာများ၊အမိန့်များနှင့်လျော်ညီသင့်တော်ခြင်း သို့မဟုတ်၊ ခွင့်ပြုထားရှိခြင်းရှိမှသာလျှင်လုပ်ငန်းများကိုဆောင်ရွက်မည်ဟုခြွင်းချက်ထားရှိပါသည်။

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏အမည်၊ နေရပ်လိပ်စာနှင့်အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| 1. | Siamgas Global Invesment Pte Ltd<br>50,East Coast Road,#02-127,ROXY SQUARE SINGAPORE(428769)<br>ကိုယ်စားပြု<br>(a)Mr.Supachai Weeraborwornpong<br>85 Sukhumvit Road,Klongtoey Nuey Wattana,Bangkok Thailand<br>(b)Mr. Somchai Ko-Prqsobsuk<br>9/53 Supalai Premier Ratchada, 7th Floor,Room 53,Ratchadapisek Road,Bangkok 10120 Thailand . | စင်ကာပူနိုင်ငံတွင်တည်ထောင်သည်။<br>Thai<br>Thailand PP No. AA7914814<br>Thai<br>Thailand PP No. AA 5537513 | ၈၇၅၀ | |
| ၂။ | ကောင်းမြန်မာအောင် သဘောကုမ္ပဏီလီမိတက်<br>အခန်းအမှတ်(၃၀၄)(၃၀၅)(၃၀၆) မဟာဗန္ဓုလလမ်းနှင့် ဗိုလ်အောင်ကျော်လမ်းထောင့်၊ ကျောက်တံတားမြို့နယ် ရန်ကုန်မြို့။<br>ကိုယ်စားပြု<br>(က) ဦးဆွေလင်း (ကုန်သည်)<br>အမှတ်(RV-7 ) ရေးဗားဖူးဂါးဒင်း၊ ၂၇-ရပ်ကွက်၊ မြောက်ဒဂုံမြို့နယ် ရန်ကုန်မြို့။ | မြန်မာနိုင်ငံတွင်တည်ထောင်သည်။<br>၁၂/ပဘတ(နိုင်)၀၂၆၉၁၄ | ၁၂၅၀ | |

ရန်ကုန်။ နေ့စွဲ၊ ၂၀ ခုနှစ်၊ လ၊ ရက်။

အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်တို့၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

# မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

## အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့်ကုမ္ပဏီ

# ကေအမ်အေဆိုင်ယမ်လီမိတက်

၏

# သင်းဖွဲ့စည်းမျဉ်းများ

က က က က က

၁။ ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေမဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ နောက်ဆက်တွဲ ပထမဇယားပုံစံ 'က' ပါ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင်စေရမည်။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၁၇ (၂) တွင် ဖော်ပြပါရှိသည့် မလိုက်နာမနေရ စည်းမျဉ်းများသည် ဤကုမ္ပဏီ နှင့် အစဉ်သဖြင့် သက်ဆိုင်စေရမည်။

## အများနှင့် မသက်ဆိုင်သော ကုမ္ပဏီ

၂။ ဤကုမ္ပဏီသည် အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီဖြစ်၍ အောက်ပါသတ်မှတ်ချက်များသည် အကျိုး သက်ရောက်စေရမည်။

(က) ဤကုမ္ပဏီက ခန့်အပ်ထားသော ဝန်ထမ်းများမှအပ၊ ဤကုမ္ပဏီ၏ အစုရှင်အရေအတွက်ကို ငါးဆယ် အထိသာ ကန့်သတ်ထားသည်။

(ခ) ဤကုမ္ပဏီ၏ အစုရှယ်ယာ သို့မဟုတ် ဒီဘင်ချာ သို့မဟုတ် ဒီဘင်ချာစတော့(ခ်) တစ်ခုခုအတွက် ငွေထည့်ဝင်ရန် အများပြည်သူတို့အား ကမ်းလှမ်းခြင်းမပြုလုပ်ရန် တားမြစ်ထားသည်။

## မ,တည်ရင်းနှီးငွေနှင့် အစုရှယ်ယာ

၃။ ကုမ္ပဏီ၏သတ်မှတ်မတည်ငွေရင်း မှာ အမေရိကန်ဒေါ်လာ ၁၅,၀၇၇,၀၀၀/-(အမေရိကန်ဒေါ်လာ တစ်ဆယ့် ငါးသန်း ခုနစ်သောင်းခုနစ်ထောင်တိတိ) ဖြစ်၍ အမေရိကန်ဒေါ်လာ ၁၀/- (အမေရိကန်ဒေါ်လာ တစ်ဆယ်တိတိ) ကန်အစုရှယ်ယာပေါင်း (၁,၅၀၇,၇၀၀) ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင်တည်ဆဲဖြစ်နေ သောတရားဥပဒေ ပြဋ္ဌာန်းချက်များ နှင့်အညီ အထွေထွေ ပင်၊လုံးကျွတ်အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့်အာဏာ ရှိစေရမည်။

၄။ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေပါပြဋ္ဌာန်းချက်များကို မထိခိုက်စေလျက် အစုရှယ်ယာများသည် ဒါရိုက်တာများ၏ [illegible]ကြပ်ကွပ်ကဲမှုအောက်တွင် ရှိစေရမည်။ ၎င်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား သတ်မှတ်ချက် [illegible]တစ်စုံတစ်ရာဖြင့် အစုရှယ်ယာများကို ခွဲဝေချထားခြင်း သို့မဟုတ် ထုခွဲရောင်းချခြင်းတို့ကို ဆောင်ရွက်ပါ [illegible]။ထို့ပြင် ကုမ္ပဏီအနေဖြင့် အခြားကုမ္ပဏီနှင့် ပူးပေါင်းခြင်း၊ဝယ်ယူခြင်း၊လက်အောက်ခံကုမ္ပဏီများ [illegible]ခြင်း၊အသင်းအဖွဲ့များတွင်ပါဝင်ဆောင်ရွက်ခြင်းနှင့်အခြားကုမ္ပဏီများ၏အစုရှယ်ယာများကိုဝယ်ယူခြင်း [illegible]အရေးများရှိစေရမည်။

၅။ အစုရှယ်ယာလက်မှတ်များကို အထွေထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့က သတ်မှတ်သည့် အခြားပုဂ္ဂိုလ်များက လက်မှတ်ရေးထိုး၍ ကုမ္ပဏီတံဆိပ် ရိုက်နှိပ်ထုတ်ပေးရမည်။ အစုရှယ်ယာလက်မှတ်သည် ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်း သို့မဟုတ် ပျက်စီးခြင်းဖြစ်ပါက အဖိုးအခဖြင့် ပြန်လည် အသစ်ပြုလုပ်ပေးမှု ကိုသော်လည်းကောင်း၊ ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော အခြားသက်သေခံ အထောက် အထားတစ်စုံတစ်ရာကို တင်ပြစေ၍ သော်လည်းကောင်း ထုတ်ပေးနိုင်သည်။ ကွယ်လွန်သွားသော အစုရှယ်ယာရှင် တစ်ဦး၏ တရားဝင်ကိုယ်စားလှယ်ကို ဒါရိုက်တာများက အသိအမှတ်ပြုပေးရမည်ဖြစ်သည်။

၆။ ဒါရိုက်တာများသည် အစုရှင်များက ၎င်းတို့၏ အစုရှယ်ယာများအတွက် မပေးသွင်းရသေးသော ငွေများကို အခါ အားလျော်စွာ တောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၎င်းတို့ထံ တောင်းဆိုသည့် အကြိမ်တိုင်းအတွက် ဒါရိုက်တာများက သတ်မှတ်သည့်ပုဂ္ဂိုလ်များထံ သတ်မှတ်သည့်အချိန်နှင့် နေရာတွင် ပေးသွင်းစေရန် တာဝန်ရှိစေရမည်။ ဆင့်ခေါ်မှုတစ်ခုအတွက် အရစ်ကျပေးသွင်းစေခြင်း၊ သို့မဟုတ် ပယ်ဖျက်ခြင်း သို့မဟုတ် ရွှေ့ဆိုင်းခြင်းတို့ကို ဒါရိုက်တာများက သတ်မှတ်နိုင်သည်။

## ဒါရိုက်တာများ

၇။ သင်းလုံးကျွတ်အစည်းအဝေးက တစ်စုံတစ်ရာ သတ်မှတ်ပြဋ္ဌာန်းမှု မပြုလုပ်သမျှ ဒါရိုက်တာများ၏ အရေအတွက် သည် ( ၂ ) ဦးထက်မနည်း၊ ( ၇ ) ဦးထက် မများစေရ။
ပထမဒါရိုက်များသည် -

(၁) Mr. Supachai Weeraborwornpong (၂) Mr. Somchai Ko-Prasobsuk

(၃) ဦးဆွေလင်း တို့ဖြစ်ကြပါသည်။

၈။ ဒါရိုက်တာများသည် ၎င်းတို့အနက်မှ တစ်ဦးကို မန်နေးဂျင်းဒါရိုက်တာအဖြစ် အချိန်အခါအလိုက် သင့်လျော်သော သတ်မှတ်ချက်များ၊ ညွှန်ကြားချက်များဖြင့် ခန့်ထားရမည်ဖြစ်ပြီး၊ အခါအားလျော်စွာ ဒါရိုက်တာအဖွဲ့က ပေးအပ်သော အာဏာများ အားလုံးကို ၎င်းကအသုံးပြုနိုင်သည်။

၉။ ဒါရိုက်တာတစ်ဦးဖြစ်မြောက်ရန် လိုအပ်သောအရည်အချင်းသည် ကုမ္ပဏီ၏ အစုရှယ်ယာ အနည်းဆုံး (၅၀၀၀) စုကို ပိုင်ဆိုင်ခြင်းဖြစ်၍ ၎င်းသည် မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေပုဒ်မ ၈၅ ပါ ပြဋ္ဌာန်းချက်များကို လိုက်နာရန် တာဝန်ရှိသည်။

၁၀။ အစုရှယ်ယာများ လွှဲပြောင်းရန် တင်ပြချက်ကို မည်သည့်အကြောင်းပြချက်မျှ မပေးဘဲ ဒါရိုက်တာအဖွဲ့သည် ၎င်းတို့၏ ပြည့်စုံ၍ ချုပ်ချယ်ခြင်းကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

## ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ

၁၁။ ဒါရိုက်တာများသည် ၎င်းတို့သင့်လျော်သည် ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန် တွေ့ဆုံ ဆွေးနွေးခြင်း၊ အစည်းအဝေး ရွှေ့ဆိုင်းခြင်း၊ အချိန်မှန်စည်းဝေးခြင်း၊ အစည်းအဝေးအထမြောက်ရန် အနည်းဆုံး ဒါရိုက်တာဦးရေ သတ်မှတ်ခြင်းတို့ကို ဆောင်ရွက်နိုင်သည်။ ယင်းတို့ မသတ်မှတ်ပါက ဒါရိုက်တာနှစ်ဦး တက်ရောက်လျှင် အစည်းအဝေး ထမြောက်ရမည်။ အစည်းအဝေးတွင် မည်သည့် ပြဿနာမဆို ပေါ်ပေါက်ပါက မန်နေဂျင်းဒါရိုက်တာ၏ အဆုံးအဖြတ်သည် အတည်ဖြစ်ရမည်။ မည်သည့် ကိစ္စများကိုမဆို မဲခွဲဆုံးဖြတ်ရာတွင် မဲအရေအတွက် တူနေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးနိုင်သည်။

၁၂။ ဒါရိုက်တာများ၏ အစည်းအဝေးကို မည်သည့်ဒါရိုက်တာကမဆို အချိန်မရွေး ခေါ်နိုင်သည်။

ဒါရိုက်တာအားလုံးက လက်မှတ်ရေးထိုးထားသော ရေးသားထားသည့်ဆုံးဖြတ်ချက်တစ်ရပ်သည် နည်းလမ်းတကျ ခေါ်ယူကျင်းပသော အစည်းအဝေးက အတည်ပြုသည့် ဆုံးဖြတ်ချက်ကဲ့သို့ပင် ကိစ္စအားလုံး အတွက် အကျိုးသက်ရောက်စေရမည်။

## ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့်တာဝန်များ

မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲဇယားပုံစံ (က)ပါ စည်းမျဉ်းအပိုဒ် ၇၁ တွင် ပေးအပ်ထားသော အထွေထွေ အာဏာများကို မထိခိုက်စေဘဲဒါရိုက်တာများသည် အောက်ဖော်ပြပါ အာဏာများ ရှိရမည်ဟု အတိအလင်း ထုတ်ဖော်ကြေညာသည်။ အာဏာဆိုသည်မှာ -

(၁) ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆသော တန်ဖိုးနှင့်စည်းကမ်းများ၊ အခြေအနေများ သတ်မှတ်၍ ကုမ္ပဏီကရယူရန်အာဏာရှိသည့် မည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆိုဝယ်ယူရန် သို့မဟုတ် အခြားနည်းလမ်းများဖြင့် ရယူပိုင်ဆိုင်ရန်အပြင် ကုမ္ပဏီကပိုင်ဆိုင်ခွင့်ရှိသောမည်သည့် ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆို သင့်တော်သောစည်းကမ်းချက်များ သတ်မှတ်၍ရောင်းချခြင်း၊ အငှားချခြင်း၊ စွန့်လွှတ်ခြင်း၊ သို့မဟုတ် အခြားနည်းလမ်းများဖြင့် ဆောင်ရွက်ခြင်းတို့ကို ပြုလုပ်ရန်။

(၂) သင့်လျော်သောစည်းကမ်းသတ်မှတ်ချက်များဖြင့်ငွေကြေးများကိုချေးငှားရန် သို့မဟုတ်အဆိုပါချေးငှား သော ငွေကြေးများကို ပြန်လည်ပေးဆပ်ရန်အတွက် အာမခံများထားရှိရန်အပြင်၊ အထူးသဖြင့် ဤကုမ္ပဏီ၏ ဒီဘင်ချာများ၊ ဒီဘင်ချာစတော့(ခ်)များ၊ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများအပါအဝင် ယခုလက်ရှိနှင့် နောင်ရှိမည့် ပစ္စည်းများအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ ထုတ်ဝေရန်။

(၃) ဤကုမ္ပဏီက ရယူထားသော အခွင့်အရေးများ သို့မဟုတ် ဝန်ဆောင်မှုများအတွက် အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ငွေကြေးအားဖြင့် ပေးချေရန်၊ သို့မဟုတ် အစုရှယ်ယာများ၊ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ဤကုမ္ပဏီ၏အခြားသော အာမခံစာချုပ်များကို ထုတ်ပေးရန်၊ ထို့အပြင် အဆိုပါ အစုရှယ်ယာများ ထုတ်ပေးရာ၌ ငွေအပြည့် ပေးသွင်းပြီးသော အစုရှယ်ယာအနေဖြင့် သော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသ ပေးသွင်းပြီးသော အစုရှယ်ယာများ အနေဖြင့်သော်လည်းကောင်း သဘောတူညီသကဲ့သို့ ထုတ်ဝေပေးရန်နှင့် အဆိုပါ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ကုမ္ပဏီ၏ အခြားသော အာမခံ စာချုပ်များဖြင့် ထုတ်ဝေပေးရာ၌ ခေါ်ဆိုခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ဖြစ်စေ၊ ထိုကဲ့သို့မဟုတ်ဘဲဖြစ်စေ ထုတ်ပေးရန်။

(၄) ဤကုမ္ပဏီနှင့် ပြုလုပ်ထားသော ကန်ထရိုက်စာချုပ်များ၊ တာဝန်ယူထားသည့်လုပ်ငန်းများ ပြီးစီးအောင် ဆောင်ရွက်စေခြင်း အလို့ငှာခေါ်ယူခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းရပ်များ အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ပေါင်နှံ၍ သော်လည်းကောင်း၊ အပေါင်ပြု၍ မသော်လည်းကောင်း သို့မဟုတ် အစုရှယ်ယာများအတွက် ငွေများ တောင်းခံခေါ်ယူ၍ သော်လည်းကောင်း နှင့်ပြုရန် သို့မဟုတ် သင့်လျော်သည့်အတိုင်း ဆောင်ရွက်ရန်။

(၅) မန်နေဂျာများ၊ အတွင်းရေးမှူးများ၊ အရာရှိများ၊ စာရေးများ၊ ကိုယ်စားလှယ်များနှင့် ဝန်ထမ်းများကိုအမြဲတမ်း၊ ယာယီ သို့မဟုတ် အထူးကိစ္စရပ်များအတွက်ခန့်ထားခြင်း၊ ရပ်စဲခြင်း၊ ဆိုင်းငံ့ခြင်းများအတွက်လည်းကောင်း အဆိုပါ ပုဂ္ဂိုလ်တို့၏တာဝန်များ၊ အာဏာများ၊ လစာငွေများ၊ အခြားငွေကြေးများကို သတ်မှတ်ရာ၌လည်းကောင်း၊ အာမခံပစ္စည်းများ တောင်းခံရာ၌လည်းကောင်း သင့်လျော်သလိုဆောင်ရွက်ရန်၊ ထို့အပြင် အဆိုပါကိစ္စရပ်များအတွက် ကုမ္ပဏီ၏ မည်သည့်အရာရှိကိုမဆို ကိစ္စရပ်အားလုံးကို ဖြစ်စေ၊ တစ်စိတ်တစ်ဒေသကိုဖြစ်စေ ဒါရိုက်တာများ၏ကိုယ်စား ဆောင်ရွက်နိုင်ရေးအတွက် တာဝန်လွှဲအပ်ရန်။

(၆) ဤကုမ္ပဏီ၏ ဒါရိုက်တာတစ်ဦးအား ဒါရိုက်တာရာထူးနှင့် တွဲဖက်၍ မန်နေဂျင်း ဒါရိုက်တာ၊ အထွေထွေ မန်နေဂျာ၊ အတွင်းရေးမှူး သို့မဟုတ် ဌာနခွဲ မန်နေဂျာအဖြစ် ခန့်ထားရန်။

(၇) မည်သည့် အစုရှင်ထံမှမဆို ၎င်းတို့၏ အစုရှယ်ယာများအားလုံးကို ဖြစ်စေ၊ အချို့အဝက်ကိုဖြစ်စေ စွန့်လွှတ်ခြင်းအား သဘောတူညီသောစည်းကမ်းများဖြင့် လက်ခံရန်။

(၈) ဤကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြားအကြောင်းများကြောင့်ဖြစ်သော မည်သည့် ပစ္စည်းကိုမဆို ကုမ္ပဏီ၏ကိုယ်စား လက်ခံထိန်းသိမ်းထားရန်အတွက် မည်သည့်ပုဂ္ဂိုလ် သို့မဟုတ် ပုဂ္ဂိုလ်များကိုမဆို ခန့်ထားရန်နှင့် အဆိုပါ ယုံမှတ် အပ်နှံခြင်းများနှင့် ပတ်သက်၍ လိုအပ်သော စာချုပ်စာတမ်းများ ချုပ်ဆို ပြုလုပ်ရန်။

(၉) ဤကုမ္ပဏီ၏ အရေးအရာများနှင့် စပ်လျဉ်း၍ ဤကုမ္ပဏီက ပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီအပေါ် သို့မဟုတ် ဤကုမ္ပဏီ၏ အရာရှိများအပေါ် ပြုလုပ်သော တရားဥပဒေအရ စွဲဆို ဆောင်ရွက်မှုများကို တရားစွဲဆို၊ အရေးယူ၊ ခုခံကာကွယ်ရန် သို့မဟုတ် ခွင့်လွှတ်ရန်၊ ထို့အပြင် ဤကုမ္ပဏီက ရရန်ရှိသော ကြွေးမြီများနှင့် ဤကုမ္ပဏီအပေါ် တောင်းခံသော ကြွေးမြီများနှင့်ပတ်သက်၍ ပေးဆပ်ရန် အချိန်ကာလ ရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက် သဘောတူ ကျေအေးခြင်းများ ပြုလုပ်ရန်။

(၁၀) ဤကုမ္ပဏီက ပေးရန်ရှိသော သို့မဟုတ် ရရန်ရှိသော ငွေတောင်းခံခြင်းများကို ဖြန်ဖြေရေး ခုံသမာဓိထံသို့ ဖြေရှင်းရန်အတွက် အပ်နှံရန်အပြင် ဖြန်ဖြေရေး ခုံသမာဓိ၏ ဆုံးဖြတ်ချက်အတိုင်း လိုက်နာဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီက ရရန်ရှိသောတောင်းဆိုချက်၊ တောင်းခံချက်များနှင့် ကုမ္ပဏီသို့ပေးရန်ရှိသော ငွေကြေးများအတွက် ပြေစာများ ပြုလုပ် ထုတ်ပေးခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားသောနည်းဖြင့်စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(၁၂) လူမွဲစာရင်းခံရခြင်း၊ ကြွေးမြီး မဆပ်နိုင်ခြင်း ကိစ္စများနှင့် ပတ်သက်၍ ကုမ္ပဏီ၏ကိုယ်စား ဆောင်ရွက်ရန်။

(၁၃) ငွေလွှဲစာတမ်းများ၊ ချက်လက်မှတ်များ၊ ဝန်ခံကတိစာချုပ်များ ထပ်ဆင့် လက်မှတ်ရေးထိုးခြင်းများ၊ လျှော်ပစ်ခြင်းများ၊ ကန်ထရိုက် စာချုပ်များနှင့်စာရွက်စာတမ်းများကို ကုမ္ပဏီ၏ကိုယ်စား မည်သူက လက်မှတ် ရေးထိုးခွင့်ရှိသည်ကို စိစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆပါက သင့်လျော် လျှောက်ပတ်သောနည်းလမ်းများဖြင့် လတ်တလော အသုံးပြုရန် မလိုသေးသော ကုမ္ပဏီပိုင် ငွေများကို အာမခံပစ္စည်း ပါသည်ဖြစ်စေ၊ မပါသည်ဖြစ်စေ ရင်းနှီးမြှုပ်နှံထားရန်နှင့် စီမံခန့်ခွဲထားရန်။ ထို့အပြင် အချိန်ကာလအားလျော်စွာ မြှုပ်နှံထားသောငွေကို ပြန်လည်ရယူရန်နှင့် ပြင်ဆင်ပြောင်းလွှဲရန်။

(၁၅) ဤကုမ္ပဏီ၏ အကျိုးအတွက် ငွေကြေး စိုက်ထုတ် ကုန်ကျခံထားသော ဒါရိုက်တာ သို့မဟုတ် အခြားပုဂ္ဂိုလ်များက ကုမ္ပဏီ၏ (လက်ရှိနှင့် နောင်တွင်ရှိမည့်) ပစ္စည်းများကို ဤကုမ္ပဏီ၏ အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ ပေါင်နှံခြင်းကို သင့်လျော်သည်ဟု ယူဆပါက ဆောင်ရွက်ခွင့်ပြုရန်။ အဆိုပါ ပေါင်နှံခြင်းဆိုရာ၌ ရောင်းချနိုင်သည့် အာဏာနှင့် အခြားသော သဘောတူညီထားသည့် တရားဝင်သဘော တူညီချက်များနှင့် ဥပဒေပြဋ္ဌာန်းချက်များပါ ပါဝင်သည်။

(၁၆) ဤကုမ္ပဏီကခန့်အပ်ထားသော မည်သည့်အရာရှိသို့မဟုတ် ပုဂ္ဂိုလ်ကိုမဆို အတိအကျဆောင်ရွက်ခဲ့သည့်လုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက် ရရှိသော အမြတ်ငွေမှ ကော်မရှင်ပေးခြင်း သို့မဟုတ် ကုမ္ပဏီ၏ အထွေထွေ အမြတ်အစွန်းမှ ခွဲဝေပေး ခြင်းများ ပြုလုပ်ရန်နှင့် အဆိုပါကော်မရှင်များ၊ အမြတ်များခွဲဝေပေးခြင်း စသည်တို့ကို ဤကုမ္ပဏီ၏လုပ်ငန်းကုန်ကျစရိတ် တစ်စိတ်တစ်ဒေသအဖြစ် သတ်မှတ်ရန်။

(၁၇) ဤကုမ္ပဏီ၏လုပ်ငန်းများ၊ အရာရှိများ ဝန်ထမ်းများနှင့် အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဉ်းများ၊ စည်းကမ်းချက်များ၊ စည်းကမ်းဥပဒေများကို အခါအားလျော်စွာ သတ်မှတ်ခြင်း၊ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်းများ ဆောင်ရွက်ရန်။

(၁၈) ဤကုမ္ပဏီ၏လုပ်ငန်းအတွက် ဤကုမ္ပဏီ၏အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ကိုယ်စားဖြစ်စေ လိုအပ်သည်ဟု ယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့် ကန်ထရိုက်စာချုပ် ချုပ်ဆိုခြင်းများကို ပြုလုပ်ရန်၊ ဖျက်သိမ်းရန်နှင့် ပြင်ဆင်ရန် အပြင် အဆိုပါ ဆောင်ရွက်ချက် စာချုပ်များနှင့် ကိစ္စရပ်များကိုလည်းကောင်း ၎င်းတို့နှင့် စပ်လျဉ်းသော ကိစ္စရပ်များကို လည်းကောင်း လုပ်ကိုင်ဆောင်ရွက်ရန်။

(၁၉) ဒါရိုက်တာများက သင့်လျော်လျှောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့် ပြည်တွင်းပြည်ပ ပုဂ္ဂိုလ်၊ စီးပွားရေး အဖွဲ့အစည်း၊ ကုမ္ပဏီ သို့မဟုတ် ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှ မဆို ငွေချေးယူရန်။

## အထွေထွေအစည်းအဝေးကြီးများ

[illegible] ကုမ္ပဏီကိုဥပဒေအရ ဖွဲ့စည်းတည်ထောင်ပြီးသည့်နေ့မှ တစ်ဆယ့်ရှစ်လအတွင်း အထွေထွေသင်းလုံးကျွတ် အစည်းအဝေးကြီးကိုကျင်းပရမည်။ ထို့နောက် ဒါရိုက်တာအဖွဲ့က သတ်မှတ်ပေးသည့် အချိန်နှင့် နေရာများတွင် ပြက္ခဒိန်နှစ်တစ်နှစ်လျှင် အနည်းဆုံးတစ်ကြိမ် (နောက်ဆုံးကျင်းပသည့် အထွေထွေအစည်းအဝေးကြီးနှင့် တစ်ဆယ့်ငါးလထက်မပိုသည့်အချိန်၌) ကျင်းပရမည်။ သင်းလုံးကျွတ် အစည်းအဝေးစတင်၍ လုပ်ငန်းအတွက် ဆွေးနွေးချိန်တွင် အစည်းအဝေးအထမြောက်ရန် သတ်မှတ်သည့် အစုရှင်အရေအတွက် မတက်ရောက်သော မည်သည့်သင်းလုံးကျွတ် အစည်းအဝေးတွင်မဆို လုပ်ငန်းနှင့် ပတ်သက်၍ ဆုံးဖြတ်ဆောင်ရွက်ခြင်းမပြုရ။ ဤတွင်အခြားနည်း သတ်မှတ်ပြဋ္ဌာန်းခြင်းမရှိလျှင် ထုတ်ဝေထားသည့် မ,တည် ရင်းနှီးငွေ အစုရှယ်ယာများ၏ ငါးဆယ်ရာခိုင်နှုန်းထက်မနည်း ပိုင်ဆိုင်ကြသည့် (နှစ်ဦးထက်မနည်းသော) အစုရှင်များ ကိုယ်တိုင်တက်ရောက်လျှင် လုပ်ငန်းကိစ္စအားလုံး ဆောင်ရွက်ရန်အတွက် အစည်းအဝေးအထမြောက်သည့်ဦးရေ ဖြစ်သည်။ အကယ်၍ ကုမ္ပဏီတွင်အစုရှင်အရေအတွက် နှစ်ဦးတည်းသာရှိသည့် ကိစ္စတွင်မူ ထိုနှစ်ဦးတည်းသည်ပင်လျှင် အစည်းအဝေး အထမြောက်ရန် သတ်မှတ်သည့် အရေအတွက် ဖြစ်စေရမည်။

## အမြတ်ဝေစုများ

[illegible] သင်းလုံးကျွတ်အစည်းအဝေးတွင် ဤကုမ္ပဏီ၏ အစုရှင်များအား ခွဲဝေပေးမည့် အမြတ်ဝေစုကို ကြေညာရမည်။ သို့ရာတွင် အမြတ်ဝေစုသည် ဒါရိုက်တာများက ထောက်ခံသော ငွေပမာဏထက် မကျော်လွန်စေရ။ သက်ဆိုင်ရာနှစ်၏ အမြတ်ပမာဏ သို့မဟုတ် အခြားမခွဲဝေရသေးသည့် အမြတ်ပမာဏမှအပ အမြတ်ဝေစုကို ခွဲဝေမပေးရ။

## ရုံးဝန်ထမ်းများ

[illegible] **ကုမ္ပဏီ**သည် လုပ်ငန်းရုံးတစ်ခုကို ဖွင့်လှစ်၍ ဆောင်ရွက်မည်ဖြစ်ပြီး အရည်အချင်း ပြည့်မီသူပုဂ္ဂိုလ်တစ်ဦးအား **အ**ထွေထွေမန်နေဂျာအဖြစ် ခန့်အပ်ရန်နှင့် အခြားအရည်အချင်း ပြည့်မီသူများအား ရုံးဝန်ထမ်းများအဖြစ် ခန့်အပ်မည် **ဖြစ်သ**ည်။ လစာ၊ ခရီးသွားလာစရိတ်နှင့် အခြားအသုံးစရိတ်များကဲ့သို့သော ဉာဏ်ပူဇော်ခများနှင့် အခကြေးငွေ **များ**ကို ဒါရိုက်တာအဖွဲ့က သတ်မှတ်မည်ဖြစ်ပြီး ၎င်းသတ်မှတ်ချက်များကို သင်းလုံးကျွတ် အစည်းအဝေးက **အတည်**ပြုရမည်။ အထွေထွေမန်နေဂျာသည် လုပ်ငန်းရုံး၏ ထိရောက်စွာလုပ်ငန်း လည်ပတ်မှုအားလုံးအတွက် **တာဝန်**ရှိစေရမည်ဖြစ်ပြီး မန်နေဂျင်း ဒါရိုက်တာအားတာဝန်ခံ၍ ဆောင်ရွက်ရမည်။

## ငွေစာရင်းများ

[illegible] **ဒါရိုက်**တာများသည် သင့်လျော်သည့် ငွေစာရင်းစာအုပ်များကို အောက်ဖော်ပြပါ သတ်မှတ်ချက်များနှင့်အညီ **ထား**သိုထိန်းသိမ်း ဆောင်ရွက်ရမည်။

(က) ကုမ္ပဏီ၏ ရငွေ၊ သုံးငွေများ၏ ပမာဏနှင့် ၎င်းရငွေ၊ သုံးငွေများ ဖြစ်ပေါ်ခြင်းနှင့် စပ်လျဉ်းသည့် အကြောင်းကိစ္စများ။

(ခ) ကုမ္ပဏီ၏ ကုန်ပစ္စည်းများ ရောင်းချခြင်းနှင့် ဝယ်ယူခြင်းများ။

(ဂ) ဤကုမ္ပဏီ၏ ရရန်ပိုင်ခွင့်နှင့် ပေးရန်တာဝန်များ။

[illegible] ငွေစာရင်းစာအုပ်အားလုံးကို ဤကုမ္ပဏီ၏ မှတ်ပုံတင်ထားသော လုပ်ငန်းရုံး သို့မဟုတ် ဒါရိုက်တာများက သင့်လျော်သည်ဟု ထင်မြင်ယူဆသော အခြားနေရာတွင် သိမ်းဆည်းထားရမည်ဖြစ်ပြီး၊ ရုံးချိန်အတွင်း၌ ဒါရိုက်တာများက စစ်ဆေးနိုင်ရန် ပြသထားရမည်။

## စာရင်းစစ်

[illegible] စာရင်းစစ်များကို ခန့်အပ်ထားရမည်။ ၎င်းစာရင်းစစ်များ၏ တာဝန်သည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ သို့မဟုတ် အခါအားလျော်စွာ ပြင်ဆင်သတ်မှတ်သည့် စည်းမျဉ်း စည်းကမ်းများနှင့် လိုက်လျောညီထွေ ဖြစ်ရမည်။

### နို့တစ်စာ

၂၁။ ဤကုမ္ပဏီသည် မည်သည့်အစုရှင်ထံသို့မဆို နို့တစ်စာကို လက်ရောက်ပေးအပ်ခြင်း သို့မဟုတ် နို့တစ်စာပါသော စာကို စာတိုက်ခ ကြိုတင်ပေးထား၍ ၎င်းအစုရှင်ထံ မှတ်ပုံတင်လိပ်စာအတိုင်း စာတိုက်မှတစ်ဆင့် လိပ်မူ ပေးပို့ခြင်းအားဖြင့် ပေးပို့နိုင်သည်။

### တံဆိပ်

၂၂။ ဒါရိုက်တာများသည် တံဆိပ်ကို လုံခြုံစွာထိန်းသိမ်းထားရန်အတွက် စီမံဆောင်ရွက်ရမည်။ ထိုတံဆိပ်ကို ဒါရိုက်တာများကကြိုတင်ပေးအပ်ထားသည့် ခွင့်ပြုချက်ဖြင့်မှတစ်ပါး၊ ထို့အပြင် အနည်းဆုံး ဒါရိုက်တာတစ်ဦး ရှေ့မှောက်တွင်မှတစ်ပါး မည်သည့်အခါမျှ မသုံးရ။ တံဆိပ်ရိုက်နှိပ်ထားသည့် စာရွက်စာတမ်းတိုင်းတွင် ထိုဒါရိုက်တာက လက်မှတ်ရေးထိုးရမည်။

### လျော်ကြေး

၂၃။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ ၈၆ (ဂ) တွင် ဖော်ပြပါရှိသည့် ပြဋ္ဌာန်းချက်များ၊ လက်ရှိတရားဝင်တည်ဆဲဥပဒေပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ ကုမ္ပဏီ၏ ဒါရိုက်တာ၊ စာရင်းစစ်၊ အတွင်းရေးမှူး သို့မဟုတ် အခြားအရာရှိ တစ်ဦးဦးမှာ မိမိ၏ တာဝန် ဝတ္တရားများကို ဆောင်ရွက်ရာ၌ဖြစ်စေ၊ ထိုတာဝန် ဝတ္တရားများနှင့် စပ်လျဉ်း၍ဖြစ်စေ ကျခံခဲ့ရသည့်စရိတ်များ၊ တောင်းခံငွေများ၊ ဆုံးရှုံးငွေများ၊ ကုန်ကျငွေများနှင့် ကြွေးမြီတာဝန်များအတွက် ကုမ္ပဏီထံမှ လျော်ကြေး ရထိုက်ခွင့်ရှိစေရမည်။

### ဖျက်သိမ်းခြင်း

၂၄။ ကုမ္ပဏီ၏ အထွေထွေအစည်းအဝေး ဆုံးဖြတ်ချက်ဖြင့် ကုမ္ပဏီအား ဖျက်သိမ်းနိုင်သည်။ ယင်းသို့ ဖျက်သိမ်းရာတွင် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေများနှင့် ယင်းဥပဒေများအား အခါအားလျော်စွာ ပြင်ဆင်ပြောင်းလဲထားသည့် တရားဥပဒေများတွင် ပါဝင်သည့် စည်းမျဉ်းများအတိုင်း လိုက်နာပြုလုပ်ရမည်။

❖ ❖ ❖ ❖ ❖ ❖ ❖

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ယေားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့စည်းမျဉ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့် အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည် ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| 1. | Siamgas Global Investment Pte Ltd<br>50,East Coast Road,#02-127,ROXY SQUARE SINGAPORE(428769)<br>ကိုယ်စားပြု<br>(a)Mr.Supachai Weeraborwornpong<br>85 Sukhumvit Road,Klongtoey<br>Nuey Wattana,Bangkok Thailand<br>(b)Mr.Somchai Ko-Presobsuk<br>9/53 Supalai Premier Ratchada<br>7th Floor,Room 53,Ratchadapisek<br>Road,Bangkok 10110,Thailand. | စင်ကာပူနိုင်ငံတွင်တည်ထောင်သည်။<br>Thai<br>Thailand Pp.No<br>AA 7914814<br>Thai<br>Thailand PP.No<br>AA 5537513 | ၉၇၅၀ | |
| ၂။ | ကောင်းမြန်မာအောင်သဘော်ကုမ္ပဏီ လီမိတက်<br>အခန်းအမှတ်(၃၀၄)(၃၀၅)(၃၀၆) မဟာဗန္ဓုလလမ်းနှင့်ဗိုလ်အောင်ကျော် လမ်းထောင့်၊ ကျောက်တံတားမြို့နယ် ရန်ကုန်မြို့။<br>ကိုယ်စားပြု<br>(က) ဦးဆွေလင်း(ကုန်သည်)<br>အမှတ်(RV-7) ရေးဗားဖူးဂါးဒင်း<br>၂၇-ရပ်ကွက်၊ မြောက်ဒဂုံမြို့နယ်<br>ရန်ကုန်မြို့။ | မြန်မာနိုင်ငံတွင်တည်ထောင်သည်။<br>၁၂/ပဘတ(နိုင်)<br>၁၂၆၉၄၁ | ၅၂၅၀ | |

ရန်ကုန်။ နေ့စွဲ၊ ၂၀ ခုနှစ် လ ရက်။

အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်တို့၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

Memorandum Of Association

OF

# KMA SIAM LIMITED

◆ ◆ ◆ ◆ ◆

I. The name of the Company is **KMA SIAM LIMITED.**

II. The registered office of the Company will be situated in the Republic of theUnion of Myanmar.

III. The objects for which the Company is established are as on the next page.

IV. The liability of the members is limited.

V. The authorised capital of the Company is **United State Dollar 15,077,000/- (United State Dollar fifteen million seventy-seven thousand only)** divided into **(1,507,700)** shares of **USD 10/- (Ten United State Dollar Only)** each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provision for the time being in force in this behalf.

We, the several persons, whose names, nationalities, addresses and descriptions are subscri below, are desirous of being formed into a Company in pursuance of this Memorandum of Associat and respectively agree to take the number of shares in the capital of the Company set opposite respective names.

| Sr. No: | Name, Address and Occupation of Subscribers | Nationality & N.R.C No. | Number of shares taken | Signatures |
|---|---|---|---|---|
| 1. | SIAMGAS GLOBAL INVESTMENT PTE LTD.<br>50,EAST COAST ROAD,#02-127,<br>ROXY SQUARE SINGAPORE(428769)<br>REPRESENTED BY<br>(a)MR.SUPACHAI WEERABORWNRNPONG<br>85 SUKHMVIT ROAD,KLONGTOEY<br>WATTANA,BANGKOK THAILAND.<br>(b)MR.SOMCHAI KO-PRASOBSUK<br>9/53 SUPALAI PREMIER RATCHADA,<br>7th FLOOR,ROOM-53,RATCHADA-<br>PISEK ROAD,BANGKOK 10120<br>THAILAND. | INCORPORATED IN SINGAPORE<br><br>THAI THAILAND<br>PP NO.<br>AA7914814<br><br>THAI THAILAND<br>PP NO.<br>AA5537513 | 9750 | |
| 2. | KMA SHIPPING CO.,LTD.<br>ROOM-(304),(305),(306),3rd FLOOR,<br>CORNER OF MAHA BANDOOLA & BO<br>AUNG KYAW ST,KYAUKTADA TOWNSHIP,<br>YANGON.<br>REPRESENTED BY<br>(a)U SWE LYNN<br>NO.RV 7,RIVER VIEW GARDEN,<br>27th WARD,NORTH DAGON<br>TOWNSHIP,YANGON. | INCORPORATED IN MYANMAR<br><br>MYANMAR<br>12/PABATA<br>(NAING)<br>026941 | 5250 | |

Yangon Dated the day of

*It is hereby certified that the persons mentioned above put their signatures in my presence.*

1. The following services business permitted by the goverment to be sarried out solely or joint venture with any individuals from local or from abroad.

**(A)** **To Construct and operate a bulk terminal and bottling plant in Thilawa**

**(B)** **To carry importation/ stroage/trading/ packing/distributuion and sale in Myanmar of Liquid petroleum Gases (LPG)**

2. To borrow money for the benefit of the company's business from any person, firm, company, bank or finicial organization in the manners that the Company shall think fit.

PROVISO: provided that the Company shall not exercise any of the above objects whether in the Republic of the Union of Myanmar or elsewhere, save in so far as it may be entitled so as to do in accordance with the Laws, Orders and Notifications in force from time to time and then only subjects to such permission and or approval as may be prescribed by the Laws, Orders and Notifications of the Republic of the Union of Myanmar for the time being in force.

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Articles Of Association

OF

# KMA SIAM LIMITED

◆ ◆ ◆ ◆ ◆

1. The regulations contained in Table 'A' in the First Schedule to the Myanmar Companies Act shall apply to the Company save in so far as such regulations which are inconsistent with the following Articles. The compulsory regulations stipulated in Section 17(2) of the Myanmar Companies Act shall always be deemed to apply to the Company.

## PRIVATE COMPANY

2. The Company is to be a Private Company and accordingly following provisions shall have effect:-

   (a) *The number of members of the Company, exclusive of persons who are in the employment of the Company, shall be limited to fifty.*

   (b) *Any invitation to the public to subscribe for any share or debenture or debenture stock of the Company is hereby prohibited.*

## CAPITAL AND SHARES

3. The Authorised Capital of the Company is **United State Dollar 15,077,000/- (United State Dollar fifteen million seventy-seven thousand only)** divided into **(1,507,700)** shares of **USD 10/- (Ten United State Dollar Only)** each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

4. Subject to the provisions of the Myanmar Companies Act the shares shall be under the control of the Directors, who may allot or otherwise dispose of the same to such persons and on such terms and conditions as they may determine.Moreover,the Company shall has the right of mergers, takeovers, to set-up subsidiaries, participating in any associations and to purchase the shares of other Comapnies.

5. The certificate of title to share shall be issued under the Seal of the Company, and signed by the General Manager or some other persons nominated by the Board of Directors. If the share certificate is defaced, lost or destroyed, it may be renewed on payment of such fee, if any, and on such terms, if any, as to evidence and indemnity as the Directors may think fit. The legal representative of a deceased member shall be recognized by the Directors.

6. The Directors may, from time to time make call upon the members in respect of any money unpaid on their shares, and each member shall be liable to pay the amount of every call so made upon him to the persons, and at the times and places appointed by the Directors. A call may be made payable by instalments or may be revoked or postponed as the Directors may determine.

## DIRECTORS

7. Unless otherwise determined by a General Meeting the number of Directors shall not be less than **( 2 )** and not more than **( 7 )**.

   The First Directors shall be:-

   **(1) Mr. Supachai Weeraborwornpong (2) Mr. Somchai Ko-Prasobsuk**

   **(3) U Swe Lynn**

8. The Directo's may from time to time appoint one of their body to the office of the Managing Director for such terms and at such remuneration as they think fit and he shall have all the powers delegated to him by the Board of Directors from time to time.

9. The qualification of a Director shall be the holding of at least **( 5000)** shares in the Company in his or her own name and it shall be his duty to comply with the provision of Section (85) of the Myanmar Companies Act.

10. The Board of Directors may in their absolute and uncontrolled discretion refuse to register any proposed transfer of shares without assigning any reason.

## PROCEEDINGS OF DIRECTORS

11. The Director may meet together for the despatch of business, adjourn and otherwise regulate their meeting as they think fit and determine the quorum necessary for the transaction of business. Unless otherwise determined, two shall form a quorum. If any question arising at any meeting the Managing Director's decision shall be final. When any matter is put to a vote and if there shall be an equality of votes, the Chairman shall have a second or casting vote.

12. Any Director may at any time summon a meeting of Directors.

13. A resolution in writing signed by all the Directors shall be as effective for all purposes as a resolution passed out at meeting of the Directors, duly called, held and constituted

## POWERS AND DUTIES OF DIRECTORS

14. Without prejudice to the general power conferred by Regulation 71 of the Table "A" of the Myanmar Companies Act, it is hereby expressly declared that the Directors shall have the following powers, that is to say power:-

(1) To purchase or otherwise acquire for the Company any property, rights or privileges which the Company is authorized to acquire at such price, and generally on such terms and conditions as they think fit; also to sell, lease, abandon or otherwise deal with any property, rights or privileges to which the Company may be entitled, on such terms and conditions as they may think fit.

(2) To raise, borrow or secure the payment of such sum or sums in such manner and upon such terms and conditions in all respects as they think fit and in particular by the issue of debentures or debenture stocks of the Company charged upon all or any part of the property of the Company (both present and future) including its uncalled capital for the time being.

(3) At their discretion, to pay for any rights acquired or services rendered to the Company, either wholly or partially in cash or in shares, bonds, debentures or other securities of the Company and any such shares may be issued either as fully paid up or with such amount credited as paid up thereon as may be agreed upon; and any such bonds, debentures or other securities may be either specifically charged upon all or any part of the property of the Company and its uncalled capital or not so charged.

(4) To secure the fulfilment of any contract or engagement entered into by the Company by mortgage or charge upon all or any of the property of the Company and its uncalled capital for the time being or by granting calls on shares or in such manner as they may think fit.

(5) To appoint at their discretion, remove or suspend such Managers, Secretaries, Officers, Clerks, Agents and Servants for permanent, temporary or special services as they may from time to time think fit and to determine their duties and powers and fix their salaries or emoluments and to require security in such instances in such amount as they think fit and to depute any officers of the Company to do all or any of these things on their behalf.

(6) To appoint a Director as Managing Director, General Manager, Secretary or Departmental Manager in conjunction with his Directorship of the Company.

(7) To accept from any member on such terms and conditions as shall be agreed on the surrender of his shares or any part thereof.

(8) To appoint any person or persons to accept and hold in trust for the Company any property belonging to the Company or in which it is interested or for any other purposes and to execute and do all such deeds and things as may be requisite in relation to any such trust.

(9) To institute, conduct, defend of abandon any legal proceedings by or against the Company or its officers or otherwise concerning the affairs of the Company and also to compound and allow time for payment or satisfaction of any debts due to or of any claims and demands by or against the Company.

(10) To refer claims and demands by or against the Company to arbitration and to observe and perform the awards.

(11) To make and give receipts, releases and other discharges for money payable to the Company and for the claims and demands of the Company.

(12) To act on behalf of the Company in all matters relating to bankruptcy and insolvency.

(13) To determine who shall be entitled to sign bills of exchange, cheques, promissory notes, receipts, endorsements, releases, contracts and documents for or on behalf of the Company.

(14) To invest, place on deposit and otherwise deal with any of the moneys of the Company not immediately required for the purpose thereof, upon securities or without securities and in such manners as the Directors may think fit, and from time to time vary or realize such investments.

(15) To execute in the name and on behalf of the Company in favour of any Director or other person who may incur or be about to incur any personal liability for the benefit of the Company, such mortgages of the Company's property (present and future) as they think fit and any such mortgage may contain a power of sale and such other powers, covenants and provisions as shall be agreed on.

(16) To give any officer or other person employed by the Company a commission on the profits of any particular business or transaction or a share in the general profit of the Company and such commission or share of profit shall be treated as part of the working expenses of the Company.

(17) From time to time, to make, vary and repeal bye-laws for the regulation of the business of the Company, the officers and servants or the members of the Company or any section thereof.

(18) To enter into all such negotiations and contracts and rescind and vary all such contracts and execute and do all such acts, deeds and things in the name and on behalf of the Company as they may consider expedient for or in relation to any of the matter aforesaid or otherwise for the purposes of the Company.

(19) To borrow money for the benefit of the Company's business from any person, firm or company or bank or financial organization of local and abroad in the manner that the Directors shall think fit

## GENERAL MEETINGS

15 A general meeting shall be held within eighteen months from the date of its incorporation and thereafter at least once in every calendar year at such time ( not being more than fifteen months after the holding of the last preceding general meeting ) and places as may be fixed by the Board of Directors. No business shall be transacted at any general meeting unless a quorum of members is presented at the time when the meeting proceeds to business, save as herein otherwise provided Member holding not less than 50 percent of the issued shares capital (not less than two members) personally present, shall form a quorum for all purposes. And if and when in the case of there are only two number of members in the Company, those two members shall form a quorum.

## DIVIDENDS

16. The Company in general meeting may declare a dividend to be paid to the members, but no dividend shall exceed the amount recommended by the Directors. No dividends shall be paid otherwise than out of the profits of the year or any other undistributed profits.

## OFFICE STAFF

17. The Company shall maintain an office establishment and appoint a qualified person as General Manager and other qualified persons as office staffs. The remunerations and allowances such as salaries, travelling allowances and other expenditures incidental to the business shall be determined by the Board of Directors, and approved by the general meeting. The General Manager shall be responsible for the efficient operation of the office in every respect and shall be held accountable at all times to the Managing Director.

## ACCOUNTS

18. The Directors shall cause to be kept proper books of account with respect to:-

*(1) all sums of money received and expended by the Company and the matters in respect of which the receipts and expenditures take place;*

*(2) all sales and purchases of goods by the Company;*

*(3) all assets and liabilities of the Company.*

19. The books of account shall be kept at the registered office of the Company or at such other place as the Directors shall think fit and shall be opened to inspection by the Directors during office hours.

## AUDIT

20. Auditors shall be appointed and their duties regulated in accordance with the provisions of the Myanmar Companies Act or any statutory modifications thereof for the time being in force.

## NOTICE

21. A notice may be given by the Company to any member either personally or sending it by post in a prepaid letter addressed to his registered address.

## THE SEAL

22. The Directors shall provide for the safe custody of the Seal, and the Seal shall never be used except by the authority of the Directors previously given, and in the presence of one Director at least, who shall sign every instrument to which the Seal is affixed.

## INDEMNITY

23. Subject to the provisions of Section 86 (C) of the Myanmar Companies Act and the existing laws, every Director, Auditor, Secretary or other officers of the Company shall be entitled to be indemnified by the Company against all costs, charges, losses, expenses and liabilities incurred by him in the execution and discharge of the duties or in relation thereto.

## WINDING-UP

24. Subject to the provisions contained in the Myanmar Companies Act and the statutory modification thereupon, the Company may be wound up voluntarily by the resolution of General Meeting.

❖ ❖ ❖ ❖

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Articles of Association, and respectively agree to take the number of shares in the capital of the Company set opposite our respective names.

| Sr. No: | Name, Address and Occupation of Subscribers | Nationality & N.R.C No. | Number of shares taken | Signatures |
|---|---|---|---|---|
| 1. | SIAMGAS GLOBAL INVESTMENT PTE LTD.<br>50,EAST COAST ROAD,#02-127, ROXY SQUARE SINGAPORE(428769)<br>REPRESENTED BY<br>(a)MR.SUPACHAI WEERABORWORNPONG 85 SUKHUMVIT ROAD,KLONGTOEY NUEY WATTANA,BANGKOK THAILAND.<br>(b)MR.SOMCHAI KO-PRASOBSUK 9/53 SUPALAI PREMIER RATCHADA,7th FLOOR,ROOM-53 RATCHADAPISEK ROAD,BANGKOK 10120 THAILAND. | INCORPORATED IN SINGAPORE<br><br>THAI THAILAND PP NO. AA7914814<br><br>THAI THAILAND PP NO. AA5537513 | 9750 | |
| 2. | KMA SHIPPING CO.,LTD.<br>ROOM NO.(304),(305),(306),3rd CORNER OF MAHA BANDOOLA & BO AUNG KYAW ST.,KYAUKTADA TOWNSHIP,YANGON.<br>REPRESENTED BY<br>(a)U SWE LYNN NO.RV 7,RIVER VIEW GARDEN 27th WARD,NORTH DAGON TOWNSHIP,YANGON. | INCORPORATED IN MYANMAR<br><br>MYANMAR | 5250 | |

Yangon Dated the day of

*It is hereby certified that the persons mentioned above put their signatures in my presence.*

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့် ပြု မိန့်

(မနသ - ၂)

ခွင့်ပြုမိန့် အမှတ်၊ မနသ - ၈၈၄ / ၂၀၁၃ ။ ၂၀၁၃ ခုနှစ်၊ ဖေဖော်ဝါရီ လ 17 ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ဦးကျော်လင်း

(ခ) အဘ အမည် ဦးလှမြင့်

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် ၁၂ /သဃက(နိုင်) ဝ၆၁၃၂၈

(ဃ) နေရပ်လိပ်စာ အမှတ် –၃၂(ဘီ)၁၊ (၃၂)ရိပ်သာ၊(၁၁)ရပ်ကွက်၊(၆)မိုင်ခွဲ၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း Kaung Myanmar Aung Shipping Co., Ltd

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား BOT စနစ်ဖြင့် မြေငှားရမ်း၍ စက်သုံးဆီ သိုလှောင်ကန်များ နှင့် ဆက်စပ်အဆောက်အဦများ တည်ဆောက်ပြီး စက်သုံးဆီသိုလှောင် ဖြန့်ဖြူးသည့် ဝန်ဆောင်မှုလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ) မြေကွက်အမှတ်–၃၁၊၃၂(စီ)၊ သီလဝါဆိပ်ကမ်းဒေသ၊ သန်လျင်–ကျောက်တန်းနယ်မြေ၊ ရန်ကုန်တိုင်းဒေသကြီး ရှိ မြန်မာ့ဆိပ်ကမ်းအာဏာပိုင် မြေ (၂၄.၇၁)ဧက။

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ၁၀၂၃၁.၀၀ (သန်း) စုစုပေါင်းကျပ်(တစ်သောင်း၊ နှစ်ရာ သုံးဆယ့် တစ်သန်းတိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ကန့်သတ်

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
## အမိန့်ကြော်ငြာစာအမှတ်၊ ၁၃ / ၂၀၁၃ (မနသ)
## ၂၀၁၃ ခုနှစ် ဖေဖော်ဝါရီလ ၁၁ ရက်

၁။ Kaung Myanmar Aung Shipping Co., Ltd မှ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မြေဖြစ်သော ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်းဒေသ၊ မြေကွက်အမှတ်-၃၁ ၊ ၃၂(စီ) ရှိ မြေ (၂၄.၇၁) ဧကတွင် B.O.T စနစ်ဖြင့် ငှားရမ်း၍ စက်သုံးဆီ သိုလှောင်ကန်များ နှင့် ဆက်စပ် အဆောက်အဦများ တည်ဆောက်ကာ စက်သုံးဆီများ သိုလှောင်ဖြန့်ဖြူးသည့် ဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား (၆-၂-၂၀၁၃)နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ (၆/၂၀၁၃)အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက် အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျှက် Kaung Myanmar Aung Shipping Co., Ltd အား B.O.T စနစ်ဖြင့် စက်သုံးဆီ သိုလှောင်ကန်များ နှင့် ဆက်စပ် အဆောက်အဦများ တည်ဆောက်ကာ စက်သုံးဆီများ သိုလှောင်ဖြန့်ဖြူးသည့် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ - ၈၈၄ / ၂၀၁၃ ကို ထုတ်ပေးလိုက်သည်။

၂။ Kaung Myanmar Aung Shipping Co., Ltd အနေဖြင့် ဤခွင့်ပြုမိန့် အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၇)၊ ပုဒ်မ ၁၂ အရ ဝန်ဆောင်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့် ယင်း ဥပဒေပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များ နှင့်အညီ အောက် ဖော်ပြပါ အခွန် ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၁၃(ဂ) အရ ဝန်ဆောင်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့် အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့်ရန်ပုံငွေ ထား၍ တစ်နှစ် အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေ အပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများအပေါ် တန်ဖိုးလျော့ငွေ ကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

၃။ Kaung Myanmar Aung Shipping Co., Ltd သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် **ဝန်ဆောင်မှု ရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များ** အဖြစ် ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၄။ Kaung Myanmar Aung Shipping Co., Ltd သည် ဤ အဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၅။ ပို့ဆောင်ရေး ဝန်ကြီးဌာန၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင် နှင့် Kaung Myanmar Aung Shipping Co., Ltd တို့သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ အတည်ပြုပြီးဖြစ်သော ပဋိညာဉ်စာချုပ်နှင့် မြေငှားစာချုပ်ပါ စည်းမျဉ်းစည်းကမ်းများ အတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

၆။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် ပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့ဆိပ်ကမ်း အာဏာပိုင် နှင့် Kaung Myanmar Aung Shipping Co., Ltd တို့ ချုပ်ဆိုမည့် ပဋိညာဉ် စာချုပ်နှင့် မြေငှားစာချုပ်တို့ကို လက်မှတ်ရေးထိုး၍ **ထိုက်သင့်သော တံဆိပ်ခေါင်းခွန်များ ထမ်းဆောင်** ပြီးသည့်အခါ ယင်းသဘောတူ စာချုပ် မိတ္တူ (၅) စောင်စီကို ဤကော်မရှင်သို့ မပျက်မကွက်ပေးပို့တင်ပြရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြေငှားရမ်းခြင်း သက်တမ်းကာလမှာ လုပ်ငန်း စတင်သည့် နေ့မှစ၍ နှစ်(၃၀) ဖြစ်သည်။

၈။ Kaung Myanmar Aung Shipping Co., Ltd သည် မြန်မာ့ဆိပ်ကမ်းအာဏာပိုင် သို့ မြေ အသုံးချမှု ပရီမီယံကြေးအဖြစ် တစ်ဧကလျှင် ကျပ် (၁၅)သန်း နှုန်းဖြင့် မြေ (၂၄.၇၁)ဧက အတွက် ကျပ် (၃၇၀.၆၅)သန်းကို အောက်ပါအတိုင်း ပေးချေရမည်-

(က) စာချုပ် လက်မှတ်ရေးထိုးပြီး တစ်လ အတွင်း ကျပ်(၁၈၅.၃၂၅)သန်းကို ပေးသွင်းရန်၊

(ခ) စာချုပ် လက်မှတ်ရေးထိုးပြီး တစ်ဆယ့်နှစ်လ အတွင်း ကျပ် (၁၈၅.၃၂၅)သန်းကို ပေးသွင်းရန်၊

၉။ Kaung Myanmar Aung Shipping Co., Ltd သည် စက်သုံးဆီ သိုလှောင်ကန်များ နှင့် ဆက်စပ် အဆောက်အဦများကို တည်ဆောက်ပြီးသည်နှင့် လုပ်ငန်းများ လုပ်ကိုင်ခွင့်အတွက် အောက်ဖော်ပြပါ နှုန်းထားများအတိုင်း လစဉ်မြေငှားရမ်းခအဖြစ် ငွေကျပ် (၁၃,၃၅၆,၇၅၇)ကို လစဉ် အင်္ဂလိပ် လဆန်း (၇)ရက်မတိုင်မီ လုပ်ငန်း လုပ်ကိုင်ခွင့်ပြုသူ မြန်မာ့ ဆိပ်ကမ်း အာဏာပိုင်သို့ ပေးသွင်းရမည် ဖြစ်ပါသည်-

| မြေငှားရမ်းခ | ပေးသွင်းရမည့်နှုန်း |
|---|---|
| ကျောထောက်နောက်ခံမြေနေရာအတွက်မြေငှားရမ်းခ<br>(၂၄.၇၁ ဧက x ၅၄၀၅၄၀.၅၄/-) | ကျပ် ၁၃,၃၅၆,၇၅၇/- |

၁၀။ Kaung Myanmar Aung Shipping Co., Ltd သည် ပေးဆောင်ရမည့် မြေငှားရမ်းခကို ဆိပ်ကမ်းလုပ်ငန်းများ စတင်ဆောင်ရွက်သည့်နေ့ (သို့မဟုတ်) စက်သုံးဆီများ သိုလှောင်ခြင်း၊ ဖြန့်ဖြူးခြင်းလုပ်ငန်းများ စတင်ဆောင်ရွက်ရန် လျာထားသည့်နေ့၏ နောက်တစ်နေ့ (၁-၁-၂၀၁၃) နေ့ ထိုနေ့နှစ်ရက်အနက် စောရာ ကာလမှ စတင် ပေးချေရမည်။

၁၁။ Kaung Myanmar Aung Shipping Co., Ltd သည် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှု အတွက် အောက်ပါ အတိုင်း တာဝန်ယူဆောင်ရွက်ရမည်-

(က) လုပ်ငန်း စီမံကိန်းနယ်မြေ နှင့် ၎င်းနယ်မြေတစ်ဝိုက်တွင် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး၊

(ခ) လေထု၊ ရေထု နှင့် မြေထုများ၊ ညစ်ညမ်းမှုနှင့် သဘာဝပတ်ဝန်းကျင် အခြေအနေ ယုတ်လျော့မှုမရှိအောင် ထိန်းသိမ်းရေး၊

(ဂ) လုပ်ငန်း စီမံကိန်းနေရာအား သဘာဝပတ်ဝန်းကျင် နှင့် လိုက်လျောညီထွေ ဖြစ်အောင် ထိန်းသိမ်းနိုင်ရန်၊ ရေဆိုး နှင့် စွန့်ပစ်ပစ္စည်းများ ထိန်းသိမ်းသည့် စက်ကိရိယာများ တပ်ဆင်မှု အပါအဝင် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်း

ကာကွယ်ရေးအတွက် လိုအပ်သော အစီအမံများကို ချမှတ် ဆောင်ရွက်ရမည် ဖြစ်ပါသည်။

၁၂။ Kaung Myanmar Aung Shipping Co., Ltd သည် ဘဏ်အာမခံကြေး အဖြစ် ရင်းနှီးမြှုပ်နှံမှု ကုန်ကျစရိတ်၏ (၁)ရာခိုင်နှုန်းနှင့် ညီမျှသောငွေကို စာချုပ်ချုပ်ဆိုပြီး လေးဆယ့် ငါးရက်အတွင်း တရားဝင် ခွင့်ပြု ထားသည့် အစိုးရဘဏ် တစ်ခုခုတွင် ထားရှိရမည်။

၁၃။ Kaung Myanmar Aung Shipping Co., Ltd သည် မြေငှားစာချုပ် သက်တမ်း ကုန်ဆုံးချိန် (သို့မဟုတ်) စာချုပ်ရပ်စဲချိန်တွင် တပ်ဆင်ထားသော စက်ကိရိယာများ အပါအဝင် ဆောက်လုပ်ထားသည့် အဆောက်အဦတို့ကို ကောင်းမွန်စွာ ထိန်းသိမ်းထားသော အနေအထား အတိုင်း မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သို့ အဖိုးစားနားမဲ့ လွှဲပြောင်းပေးရမည်။

၁၄။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရ မှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၁၅။ Kaung Myanmar Aung Shipping Co., Ltd သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထား ဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေးနှင့် စာရင်းဇယားများ စနစ်တကျ ရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ် ဆောင်ရွက်ရမည်။

၁၆။ Kaung Myanmar Aung Shipping Co., Ltd. သည် ဤခွင့်ပြုမိန့် အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေး အန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန် အတွက် လိုအပ်သည့် ပတ်ဝန်း ကျင်ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ် ရေး အစီအမံများကို ဝန်ခံ ကတိပြုထားသည့် အတိုင်း စနစ်တကျ ထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၇။ Kaung Myanmar Aung Shipping Co., Ltd သည် ကနဦး လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံ ရမည်။ ထို့ပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံ ဇယားများဖြင့် (၆)လတစ်ကြိမ် (ဧပြီ/အောက်တိုဘာလများ) **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရ

မည်။ အဆိုပြု လုပ်ငန်း၏ စီးပွားဖြစ် စတင်ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်) လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၈။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပမာဏ နှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်း နံပါတ်)ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၉။ Kaung Myanmar Aung Shipping Co., Ltd သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီး ဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာမှု မရှိကြောင်း စစ်ဆေး တွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည် ရုပ်သိမ်းသည်အထိ အရေးယူခြင်းခံရမည်။

၂၀။ အဆိုပြု လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ရ မည်ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်းမရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေး တွေ့ရှိလျှင် လုပ်ငန်း ပိတ်သိမ်းနိုင်ရေး အတွက်သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်း ဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၅(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက် စာရင်း၌ ထည့်သွင်းခြင်း ခံရမည်။

၂၁။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ် ယူရမည်။

(စိုးသိန်း)
ဥက္ကဋ္ဌ

စာအမှတ်၊ရကက-၆(က) /မ-၁၂၀၇/၂၀၁၃(၂၃၅၆-စ)

ရက်စွဲ၊ ၂၀၁၃ ခုနှစ် ဖေဖော်ဝါရီလ ၇၁ ရက်

**ဖြန့်ဝေခြင်း**

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ

ပြည်ထဲရေးဝန်ကြီးဌာန

စွမ်းအင် ဝန်ကြီးဌာန

သတ္တုတွင်း ဝန်ကြီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာန

ပို့ဆောင်ရေးဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

အလုပ်သမား၊အလုပ်အကိုင် နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန

ဆက်သွယ်ရေးနှင့် သတင်းအချက်အလက် နည်းပညာ ဝန်ကြီးဌာန

လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန

စက်မှုဝန်ကြီးဌာန

လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန

ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၊ ရန်ကုန်မြို့

ဥက္ကဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့်အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

ကန့်သတ်

၇

ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေးညွှန်ကြားမှု ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း

အုပ်ချုပ်မှု ဒါရိုက်တာ၊ Kaung Myanmar Aung Shipping Co., Ltd

ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော် အစိုးရ
အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန
ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှု ဦးစီးဌာန
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

☎ ၀၁-၆၅၇၈၉၁ စာအမှတ် ၊ ရက - ၁၀ / ၁ / ၂၀၁၄ ( ၃၅ ၁၈ )
📠 ၀၁-၆၅၈၁၃၅ ရက်စွဲ ၊ ၂၀၁၄ ခုနှစ် နိုဝင်ဘာလ ၇ ရက်

သို့

အုပ်ချုပ်မှု ဒါရိုက်တာ
**ကောင်း မြန်မာ အောင် သဘော် ကုမ္ပဏီ လီမိတက်**
အိုလံပစ်တာဝါ၊ အခန်းအမှတ်(၃၀၄၊ ၃၀၅၊ ၃၀၆)၊ (၃)လွှာ၊
မဟာဗန္ဓုလလမ်းနှင့် ဗိုလ်အောင်ကျော်လမ်းထောင့်၊ ကျောက်တံတားမြို့နယ်၊
ရန်ကုန်တိုင်းဒေသကြီး

အကြောင်းအရာ ။ **ကုမ္ပဏီ မှတ်ပုံတင် လက်မှတ် သက်တမ်းတိုးခြင်းကိစ္စ**
ရည် ညွှန်း ချက် ။ ကုမ္ပဏီ၏ ၅-၁၁-၂၀၁၄ ရက်စွဲပါစာ

၁။ အထက်ရည်ညွှန်းပါစာဖြင့် **ကောင်း မြန်မာ အောင် သဘော် ကုမ္ပဏီ လီမိတက်** မှ သက်တမ်းတိုးမြှင့် ပေးပါရန် တင်ပြလာခြင်းကို (၅-၁၁-၂၀၁၄) ရက်နေ့တွင် ခွင့်ပြုပြီး ဖြစ်ပါသဖြင့် (၈-၁-၂၀၂၀) ရက်နေ့ အထိ (၅)နှစ် သက်တမ်းတိုးမြှင့်ခွင့်ပြုလိုက်သည်။

၂။ သို့ပါ၍ **ကောင်း မြန်မာ အောင် သဘော် ကုမ္ပဏီ လီမိတက်** မှ ကျပ် ၅၀၀,၀၀၀/- (ကျပ်ငါးသိန်း တိတိ) ပေးသွင်းပြီး ဖြစ်ပါ၍ ရုံးတွင်းမှတ်ပုံတင်အမှတ် - **၁၃၇၃ / ၂၀၀၇ - ၂၀၀၈** (၉-၁-၂၀၀၈) ဖြင့် သက်တမ်းတိုး မှတ်ပုံတင်လက်မှတ်ကို ထုတ်ပေးလိုက်သည်။

(signed)
ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)
( နီလာမူ ၊ ဒုတိယညွှန်ကြားရေးမှူး )

မိတ္တူကို

ရန်ကုန်တိုင်းဒေသကြီး စီမံကိန်းဦးစီးရုံး
ရုံးလက်ခံ
မျှောစာတွဲ

သက်တမ်းတိုး

005160

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

# ကုမ္ပဏီမှတ်ပုံတင်လက်မှတ်

အမှတ် ......၁၃၇၃..../ ၂၀၀၇-၂၀၀၈

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ .........ကောင်း မြန်မာ အောင် သင်္ဘော.......
.........ကုမ္ပဏီ လီမိတက်..........အား ပေးရန်တာဝန် ကန့်သတ်ထားသော လီမိတက်
ကုမ္ပဏီအဖြစ် ..၂၀၀၈ခုနှစ်၊ ....ဇန်နဝါရီ.လ၊ ..၉..ရက်နေ့တွင် မှတ်ပုံတင်ထားခြင်းအား
..၂၀၁၄ ခုနှစ်၊ ....နိုဝင်ဘာ.လ၊ ..၅..ရက်နေ့မှစ၍ သက်တမ်းတိုး ခွင့်ပြုလိုက်သည်။

ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)
(နီလာမူ၊ ဒုတိယညွှန်ကြားရေးမှူး)
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

THE GOVERNMENT OF THE REPUBLIC OF THE UNION OF MYANMAR
MINISTRY OF NATIONAL PLANNING AND ECONOMIC DEVELOPMENT

# CERTIFICATE OF INCORPORATION

NO. ..............1373......... of 2007-2008

I hereby certify that the tenure of KAUNG MYANMAR AUNG SHIPPING ............COMPANY LIMITED.............................................incorporated under the Myanmar Companies Act on ...............................9th JANUARY, 2008.................... is renewed with effected from .......................5th NOVEMBER, 2014.....................

For Director General
(Nilar Mu, Deputy Director)
Directorate of Investment and Company Administration

# ကုမ္ပဏီနှင့်သက်ဆိုင်သည့်အချက်အလက်များ

(က) အုပ်ချုပ်မှုဒါရိုက်တာအမည်၊ ဦးဆွေလင်း.......(၁၂/ပဘတ(နိုင်)၀၂၆၉၄၁ )

(ခ) ကုမ္ပဏီ ရုံးခန်းလိပ်စာ၊ အိုလံပစ်တာဝါ၊ အခန်းအမှတ်(၃၀၄၊ ၃၀၅၊ ၃၀၆)၊ (၃)လွှာ၊ မဟာဗန္ဓုလလမ်းနှင့် ဗိုလ်အောင်ကျော်လမ်းထောင့်၊ ကျောက်တံတားမြို့နယ်၊ ရန်ကုန်မြို့။

(ဂ) ဆက်သွယ်ရန် ဖုန်းနံပါတ်၊ ၀၁-၃၉၈၂၀၁၊ ၀၁-၃၉၈၂၀၂၊ ၀၁၃၉၈၂၀၃.

(ဃ) ဒါရိုက်တာများ အမည်စာရင်း– (၁). ဦးခင်မောင်အေး (ဥက္ကဋ္ဌ).........
၇/တငန(နိုင်)၀၆၆၃၅၇

(၂) ဦးကျော်လင်း (ဒု-ဥက္ကဋ္ဌ)
၁၂/သဃက(နိုင်)၀၆၁၃၂၈

(၃) ဦးတင်မောင်ထွေး
၁၀/မလမ(နိုင်)၀၀၁၀၅၄

(၄) ဒေါ်ခင်လှလှ
၇/တငန(နိုင်)၀၆၆၁၆၅

မှတ်ချက်။ (၁) ဤကုမ္ပဏီမှတ်ပုံတင်လက်မှတ်သည်မှတ်ပုံတင်ရက်စွဲ( ၉-၁-၂၀၁၅ )မှ ( ၈-၁-၂၀၂၀ )ရက်နေ့အထိ(၅)နှစ်သက်တမ်းအတွက်သာ ဖြစ်သည်။ သက်တမ်း မကုန်ဆုံးမီ (၃)လအလိုတွင် သက်တမ်းတိုးရန် ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာနသို့ လျှောက်ထား ရမည်။

(၂) ကုမ္ပဏီ အနေဖြင့် သင်းဖွဲ့မှတ်တမ်းတွင်အဆိုပြု တင်ပြထားသော လုပ်ငန်းရည်ရွယ်ချက်များကိုသာ လုပ်ကိုင်ရမည်။

(၃) သင်းဖွဲ့မှတ်တမ်းပါ ရည်ရွယ်ချက်များသည် သက်ဆိုင်ရာ ပြည်ထောင်စုဝန်ကြီးဌာန၏ တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း များနှင့်အညီ ခွင့်ပြုချက် ရရှိမှသာ ဆောင်ရွက်ခွင့် ရှိမည် ဖြစ်ပါသည်။

(၄) လုပ်ငန်းရည်ရွယ်ချက် ပြောင်းလဲ လုပ်ကိုင်လိုပါက ပြောင်းလဲ လုပ်ကိုင်လိုသည့် လုပ်ငန်း ရည်ရွယ်ချက်များအား သင်းဖွဲ့မှတ်တမ်းတွင် ပြင်ဆင်မှတ်ပုံတင်ရန်အတွက် ဒါရိုက်တာအဖွဲ့(BOD)၏ အထူး အစည်းအဝေးဆုံးဖြတ်ချက် မှတ်တမ်းနှင့်အတူ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန သို့ လျှောက်ထား ရမည် ။

ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)
( မော်မော်စိုး ၊ လက်ထောက်ညွှန်ကြားရေးမှူး )

လာရောက်ထုတ်ယူသည့် ရက်စွဲ၊ 10 NOV 2014

025537

# FORM VI

## RETURN OF ALLOTMENTS
## THE MYANMAR COMPANIES ACT.

(See Section 104)

(To be filed with the Registrar within one month after the allotment is made)

Return of allotment from the 29th of JANUARY 2008

on the 29th of JANUARY 2008 of the * KAUNG MYANMAR AUNG SHIPPING COMPANY LIMITED.

Made pursuant to Section 104 (1)

Number of the shares allotted payable in cash .................. 100 SHARES

" " " " ..................

Nominal amount of the shares so allotted .................. KS.10 ,000,000/-

" " " " ..................

Amount paid or due and payable on cash such share .................. KS.100,000/-

" " " " .................. ( FULLY PAID UP )

Number of ordinary shares allotted for a consideration other than cash

Nominal amount to be ordinary shares so allotted ..................

Amount to be treated as paid on each such share ..................

The consideration for which such share have been allotted is as follow : -

---

NOTE In making a return of allotments under Section 104 (1) the Myanmar Companies Act., it is to be noted that -

1. When a return include several allotments made on different dates, the actual date of only the first and last of such allotment should be entered at the tip of the front page, and the registration of the return should be effected within one month of the first date.

2. When a return relates to one allotment only, made on one particular date, that date only should be inserted and the spaces for the second date struck out and the world made substituted for the world "From" after the world "allotments" above.

Here insert name of Company.

Distinguish between preference, ordinary, or other description ofshares.

**Presented for filing by :** U KHIN MAUNG AYE (MANAGING DIRECTOR)

Name, Address and Description of Allotees

| Name & N.R.C No | Address | Description | Number of the shares allotted | |
|---|---|---|---|---|
| | | | Preference | Ordinary |
| 1. U KHIN MAUNG AYE 7/ TA NGA NA(NAING) 066357 | NO.(18),U BA HAN STREET,THINGANGYUN TOWNSHIP, YANGON. | MERCHANT | | 98 SHARES |
| 2. DAW WINT YEE AYE 12/KA MA YA(NAING) 035751 | NO.(18),U BA HAN STREET,THINGANGYUN TOWNSHIP,YANGON. | MERCHANT | | 1 SHARE |
| 3. U KYAW LYNN 12/THA GA KA(NAING) 061328 | B-1,ROOM(301) THIRIMINGALAR GARDEN HOUSING,LUT LAT YAE QUARTER,AHLONE TOWNSHIP,YANGON. | MERCHANT | | 1 SHARE |
| | | | TOTAL | 100 SHARES |

Kaung Myanmar Aung Shipping Co., Ltd.

Signature

SWE LYNN
*MANAGING DIRECTOR*
**KMA Shipping Co Ltd**

Date 29.1.2008

FORM VI

026501

# FORM VI

## RETURN OF ALLOTMENTS
## THE MYANMAR COMPANIES ACT.

(See Section 104)

(To be filed with the Registrar within one month after the allotment is made)

Return of allotment from the 23th of JUNE 2009

on the of 20 of the * KAUNG MYANMAR AUNG SHIPPING CO.,LTD.

Made pursuant to Section 104 (1)

Number of the shares allotted payable in cash .................. 4900 SHARES

" " " " ..................

Nominal amount of the shares so allotted .................. KS.490,000,000/-

" " " " ..................

Amount paid or due and payable on cash such share .................. KS.100,000/-

" " " " .................. ( FULLY PAID UP )

Number of ordinary shares allotted for a consideration other than cash

Nominal amount to be ordinary shares so allotted ..................

Amount to be treated as paid on each such share ..................

The consideration for which such share have been allotted is as follow :

SWE LYNN
*MANAGING DIRECTOR*
KMA Shipping Co Ltd

---

**NOTE** In making a return of allotments under Section 104 (1) the Myanmar Companies Act., it is to be noted that -

1. When a return include several allotments made on different dates, the actual date of only the first and last of such allotment should be entered at the tip of the front page, and the registration of the return should be effected within one month of the first date.

2. When a return relates to one allotment only, made on one particular date, that date only should be inserted and the spaces for the second date struck out and the world made substituted for the world "From" after the world "allotments" above.

Here insert name of Company.

Distinguish between preference, ordinary, or other description of shares.

**Presented for filing by :** U KHIN MAUNG AYE (M.D)

Name, Address and Description of Allotees

| Name & N.R.C No | Address | Description | Number of the shares allotted | |
|---|---|---|---|---|
| | | | Preference | Ordinary |
| 1. U KHIN MAUNG AYE 7/TA NGA NA(NAING) 066357 | NO.18, U BA HAN ST, THINGANGYUN TOWNSHIP, YANGON. | MERCHANT | | 1902 |
| 2. DAW WINT YEE AYE 12/KA MA YA(NAING) 035751 | NO.18, U BA HAN ST; THINGANGYUN TOWNSHIP, YANGON. | MERCHANT | | 1499 |
| 3. U KYAW LYNN 12/THA GA KA(NAING) 061328 | B-1, ROOM.501, THIRI-MINGALAR GARDEN HOUSING, LUT LAT YAE QUARTER, AHLONE TOWNSHIP, YANGON. | MERCHANT | | 998 |
| 4. U TIN MAUNG HTWE 10/MA LA MA(NAING) 001054 | NO.35, PHOE SEIN ROAD, BOCHO (2) QUARTER BAHAN TOWNSHIP, YANGON. | MERCHANT | | 500 |
| 5. KAY TU MA DI CO., LTD | NO.18/22, TOP FLOOR 23rd STREET, LATHA TOWNSHIP, YANGON. | MERCHANT | | 1 |
| | | | TOTAL | 4900 SHARES |

Kaung Myanmar Aung Shipping Co., Ltd.

Signature

SWE LYNN
*MANAGING DIRECTOR*
KMA Shipping Co Ltd

Date 23.6.2009.

FORM VI

FORM VI 026500

# RETURN OF ALLOTMENTS
# THE MYANMAR COMPANIES ACT.

(See Section 104)

(To be filed with the Registrar within one month after the allotment is made)

Return of allotment from the 14th of OCTOBER 2013

on the of 20 of the * KAUNG MYANMAR AUNG SHIPPING CO.,LTD.

Made pursuant to Section 104 (1)

Number of the shares allotted payable in cash .................. 5400 SHARES

" " " " ..................

Nominal amount of the shares so allotted .................. KS.540,000,000/-

" " " " ..................

Amount paid or due and payable on cash such share .................. KS.100,000/-

" " " " .................. ( FULLY PAID UP )

Number of ordinary shares allotted for a consideration other than cash

Nominal amount to be ordinary shares so allotted ..................

Amount to be treated as paid on each such share ..................

The consideration for which such share have been allotted is as follow :

SWE LYNN
MANAGING DIRECTOR
KMA Shipping Co Ltd

---

**NOTE** In making a return of allotments under Section 104 (1) the Myanmar Companies Act., it is to be noted that -

1. When a return include several allotments made on different dates, the actual date of only the first and last of such allotment should be entered at the tip of the front page, and the registration of the return should be effected within one month of the first date.

2. When a return relates to one allotment only, made on one particular date, that date only should be inserted and the spaces for the second date struck out and the world made substituted for the world "From" after the world "allotments" above.

Here insert name of Company.

Distinguish between preference, ordinary, or other description of shares.

**Presented for filing by :** U KHIN MAUNG AYE(M.D)

Name, Address and Description of Allotees

| Name & N.R.C No | Address | Description | Number of the shares allotted | |
|---|---|---|---|---|
| | | | Preference | Ordinary |
| 1. U KHIN MAUNG AYE<br>7/TA NGA NA(NAING) 066357 | NO.18,U BA HAN ST, THINGANGYUN TSP, YANGON. | MERCHANT | | 2453 |
| 2. DAW WINT YEE AYE<br>12/KA MA YA (NAING)035751 | NO.18,U BA HAN STREET, THINGANGYUN TSP, YANGON. | MERCHANT | | 1469 |
| 3. U KYAW LYNN<br>12/THA GA KA (NAING)061328 | B-1,ROOM-301, THIRIMINGALAR GARDEN HOUSING, LUT LAT YAE QUARTER, AHLONE TSP, YANGON. | MERCHANT | | 674 |
| 4. U TIN MAUNG HTWE<br>10/MA LA MA(NAING) 001054 | NO.35,PHOE SEIN ROAD, BOCHO(2)QUARTER , BAHAN TOWNSHIP, YANGON. | MERCHANT | | 804 |
| | | | TOTAL | 5400 SHARES |

KMA SHIPPING
Kaung Myanmar Aung Shipping Co., Ltd.

Signature

Date 14.10.2013.

FORM VI

028173

# FORM XXVI

## PARTICULARS OF DIRECTORS, MANAGERS AND MANAGING AGENTS AND OF ANY CHANGES THEREIN

**( Myanmar Companies Act, See Section 87 )**

Name of Company : KAUNG MYANMAR AUNG SHIPPING CO.,LTD. Presented by : U SWE LYNN(M.D)

| The Present Christian name or names of surnames | Nationality, National Registration Card No. | Usual Residential Address | Other Business Occupation | Changes |
|---|---|---|---|---|
| 1. U KHIN MAUNG AYE | MYANMAR 7/TA NGA NA(NAING) 066357 | NO.18,U BA HAN STREET,THINGANGYUN TOWNSHIP, YANGON. | MERCHANT | CHAIRMAN |
| 2. U KYAW LYNN | MYANMAR 12/THA GA KA(NAING) 061328 | B-1,ROOM.301,THIRIMINGALAR GARDEN HOUSING,LUT LAT YAE QUARTER,AHLONE TOWNSHIP,YANGON. | MERCHANT | CHANGED FROM DIRECTOR TO VICE CHAIRMAN w.e.f 7.7.2009 |
| 3. U SWE LYNN | MYANMAR 12/PA BA TA(NAING) 026941 | NO.I/8,SHWE PADAUK YEIKMON,(4)QUARTER,BAYINTNAUNG ROAD,KAMAYUT TOWNSHIP,YANGON. | MERCHANT | MANAGING DIRECTOR |
| 4. U TIN MAUNG HTWE | MYANMAR 10/MA LA MA(NAING) 001054 | NO.35,PHOE SEIN ROAD, BOCHO(2)QUARTER, BAHAN TOWNSHIP,YANGON. | MERCHANT | DIRECTOR |
| 5. DAW KHIN HLA HLA | MYANMAR 7/TA NGA NA(NAING) 66165 | NO.57,ROYAL RIVER ROAD, MYAYAMON VILLA,SOUTH DAGON TOWNSHIP,YANGON. | MERCHANT | APPOINTED AS DIRECTOR w.e.f 7.7.2009 |
| 6. DAW SOE MOE KO | MYANMAR 12/LA MA TA(NAING) 021752 | NO.59/24,NAWADAY GARDEN HOUSING ,HLAING THARYAR TOWNSHIP,YANGON. | MERCHANT | RESIGNED FROM DIRECTOR w.e.f 7.7.2009 |

NOTE : (1) A Complete list of the Directors or Managers or Managing Agents shown as existing in the last particulars.

(2) A note of the changes since the last list should be made in the column for "Changes" by placing against the new Director's name the word "in place of ......" and by writing against any former Director's name the the word "dead" "resigned" or as the case may be giving the date of change against the entry.

Signature ......SWE LYNN......

Designation ......MANAGING DIRECTOR KMA Shipping Co Ltd......

Dated this ......7.7.2009......

Form (26)

## မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့်ကုမ္ပဏီ

# ကောင်းမြန်မာအောင် သဘော်ာကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့မှတ်တမ်း

❖❖❖❖❖❖❖

၁။ **ကုမ္ပဏီ၏** အမည်သည် "ကောင်းမြန်မာအောင်သဘော်ာ ကုမ္ပဏီ လီမိတက်" ဖြစ်ပါသည်။

၂။ **ကုမ္ပဏီ၏** မှတ်ပုံတင် အလုပ်တိုက်သည် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

၃။ **ကုမ္ပဏီ** တည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ တစ်ဖက်စာမျက်နှာ ပါအတိုင်းဖြစ်ပါသည်။

၄။ အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

၅။ ကုမ္ပဏီ၏ သတ်မှတ်မတည်ငွေရင်းသည် ကျပ် ၁၀,၀၀၀,၀၀၀,၀၀၀/- (ကျပ် သန်းတစ်သောင်း တိတိ) ဖြစ်၍ ငွေကျပ် ၁၀၀,၀၀၀/- (ကျပ် တစ်သိန်း တိတိ)တန် အစုရှယ်ယာပေါင်း (၁၀၀,၀၀၀) ခွဲထားပါသည်။ ကုမ္ပဏီ ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေပြဋ္ဌာန်းချက်များ နှင့်အညီ အထွေထွေသင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိ စေရမည်။

(၁) အောက်ပါဝန်ဆောင်မှုလုပ်ငန်းများကို မိမိတစ်ဦးတည်းဖြစ်စေ၊ မည်သည့်ပြည်တွင်း ပြည်ပပုဂ္ဂိုလ် များနှင့် ဖက်စပ်၍ဖြစ်စေ လုပ်ကိုင်ဆောင်ရွက်ရန်။

✓(က) အောဂျင်စီလုပ်ငန်းအမျိုးမျိုး၊ ကျွမ်းကျင်မှုအတိုင်ပင်ခံများ၊ လုပ်ငန်းအတိုင်ပင်ခံများ၊ အုပ်ချုပ်မှုအတိုင်ပင်ခံများနှင့် အကြံပေးဝန်ဆောင်မှုလုပ်ငန်းများ၊

~~(ခ) ကြော်ငြာနှင့် ကြော်ငြာကိုယ်စားလှယ်လုပ်ငန်း၊~~

✓(ဂ) ဖျော်ဖြေရေးလုပ်ငန်းနှင့် ယင်းနှင့်ပတ်သက်သည့်လုပ်ငန်းများ၊

~~(ဃ) ဆေးဝန်ဆောင်မှုလုပ်ငန်းအမျိုးမျိုး၊~~

✓(င) သယ်ယူပို့ဆောင်ရေးလုပ်ငန်း (မီးရထားနှင့်လေကြောင်းမှအပ)၊

~~(စ) ပုံနှိပ်ထုတ်ဝေခြင်းလုပ်ငန်း၊~~

~~(ဆ) တိုင်းတာရေးနှင့် စစ်ဆေးရေးလုပ်ငန်း၊~~

~~(ဇ) စီမံကိန်းသစ်များ၌ ဖြစ်မြောက်နိုင်စွမ်းရှိ မရှိလေ့လာခြင်း၊ စီမံကိန်းပုံစံများချမှတ်ခြင်း၊ စီမံကိန်းကုန်ကျစရိတ် ခန့်မှန်းခြင်းနှင့် တန်ဖိုးတွက်ချက်ခြင်းလုပ်ငန်းများ၊~~

~~(ဈ) စာရင်းရေးသွင်းခြင်း၊ စာရင်းစစ်ဆေးခြင်းနှင့် ဥပဒေအကြံပေးဝန်ဆောင်မှုလုပ်ငန်းများ၊~~

✓(ည) ယာဉ်နှင့်စက်ကိရိယာအမျိုးမျိုး ကြံခိုင်ရေးပြုလုပ်ခြင်း၊ မွမ်းမံခြင်းနှင့် ပြင်ဆင်ခြင်း လုပ်ငန်းများ၊

~~(ဋ) လျှပ်စစ်နှင့်အီလက်ထရောနစ် ကုန်ပစ္စည်းများတပ်ဆင်ခြင်း၊ ပြုပြင်ခြင်းနှင့် မွမ်းမံတည်ဆောက် ခြင်းလုပ်ငန်းများ၊~~

(၂) ကုမ္ပဏီမှ သင့်လျော်လျောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိ စေရန်အတွက် မည်သည့်ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ၊ ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့ အစည်းထံမှ မဆို ငွေချေးယူရန်။

ခြွင်းချက်။ ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း ၌ဖြစ်စေ၊ အခြားမည်သည့် အရပ်ဒေသ၌ဖြစ်စေ၊ အချိန်ကာလအလိုက် တည်မြဲနေသော တရားဥပဒေများ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များက ခွင့်ပြုထားသည့်လုပ်ငန်းများမှအပ အခြားလုပ်ငန်းများကို လုပ်ကိုင် ဆောင်ရွက်ခြင်းမပြုပါ။ ထို့အပြင် ပြည်ထောင်စုမြန်မာနိုင်ငံ တော်အတွင်း၌ အချိန်ကာလအားလျော်စွာ တည်မြဲနေသည့် တရားဥပဒေပြဋ္ဌာန်းချက်များ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များနှင့်လျော်ညီသင့်တော်ခြင်း သို့မဟုတ် ခွင့်ပြုထားခြင်းရှိ မှသာလျှင် လုပ်ငန်းများကို ဆောင်ရွက်မည်ဟု ခြွင်းချက်ထားရှိပါသည်။

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ် နှင့် အကြောင်းအရာ စုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင် ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏<br>အမည်၊ နေရပ်လိပ်စာ နှင့်အလုပ်အကိုင် | နိုင်ငံသား နှင့်<br>အမျိုးသား<br>မှတ်ပုံတင်အမှတ် | ဝယ်ယူသော<br>အစုရှယ်ယာ<br>ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁။ | ဦးခင်မောင်အေး<br><br>အမှတ် (၁၈)၊ ဦးဘဟန်လမ်း၊<br>သဃ်န်းကျွန်းမြို့နယ်၊ ရန်ကုန်မြို့။<br><br>ကုန်သည် | မြန်မာ<br><br>၇/တငန (နိုင်)<br>၀၆၆၃၅၇ | ၄၈ | |
| ၂။ | ဒေါ်ဝင့်ရည်အေး<br><br>အမှတ်(၁၈)၊ ဦးဘဟန်လမ်း၊<br>သဃ်န်းကျွန်းမြို့နယ်၊ ရန်ကုန်မြို့။<br><br>ကုန်သည် | မြန်မာ<br><br>၁၂/ကမရ(နိုင်)<br>၀၃၅၇၅၁ | ၁ | |
| ၃။ | ဦးကျော်လင်း<br><br>ဘီ(၁)၊ အခန်း (၃၀၁)၊ သီရိမင်္ဂလာဥယျာဉ်<br>အိမ်ရာ၊ လွတ်လပ်ရေး ရပ်ကွက်၊<br>အလုံမြို့နယ်၊ ရန်ကုန်မြို့။<br><br>ကုန်သည် | မြန်မာ<br><br>၁၂/သဃက(နိုင်)<br>၀၆၁၃၂၈ | ၁ | |

ရန်ကုန်။ နေ့စွဲ ၂၀၀၇ ခုနှစ်၊ ဇူလိုင် လ ( ) ရက်။

အထက်ပါ လက်မှတ်ရှင်များသည် ကျွန်ုပ်၏ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

KHIN MAR MAR
B.A. (Law), LL.B.
Supreme Court Advocate
(Legal Consultant)

## မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့်ကုမ္ပဏီ

# ကောင်းမြန်မာအောင်သဘော်ာ ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့စည်းမျဉ်းများ

❖ ❖ ❖ ❖ ❖ ❖ ❖

၁။ ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေမဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ နောက်ဆက်တွဲ ပထမဇယားပုံစံ "က"ပါ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင် စေရမည်။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၁၇ (၂)တွင် ဖော်ပြပါရှိသည့် မလိုက်နာမနေရ စည်းမျဉ်းများသည် ဤကုမ္ပဏီ နှင့်အစဉ်သဖြင့် သက်ဆိုင်စေရမည်။

## အများနှင့် မသက်ဆိုင်သော ကုမ္ပဏီ

၂။ ဤကုမ္ပဏီသည် အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီဖြစ်၍ အောက်ပါသတ်မှတ်ချက်များသည် အကျိုးသက်ရောက်စေရမည်။

(က) ဤကုမ္ပဏီက ခန့်အပ်ထားသော ဝန်ထမ်းများမှအပ၊ ဤကုမ္ပဏီ၏ အစုရှင်အရေအတွက်ကို ငါးဆယ် အထိသာ ကန့်သတ်ထားသည်။

(ခ) ဤကုမ္ပဏီ၏ အစုရှယ်ယာ သို့မဟုတ် ဒီဘင်ချာ သို့မဟုတ် ဒီဘင်ချာစတော့(ခ်)တစ်ခုခုအတွက် ငွေထည့်ဝင်ရန် အများပြည်သူတို့အား ကမ်းလှမ်းခြင်းမပြုလုပ်ရန် တားမြစ်ထားသည်။

## မ, တည်ရင်းနှီးငွေနှင့် အစုရှယ်ယာ

၃။ ကုမ္ပဏီ၏ သတ်မှတ်မတည်ငွေရင်းမှာ ကျပ် ၁၀,၀၀၀,၀၀၀,၀၀၀/- (ကျပ် သန်းတစ်သောင်း တိတိ) ဖြစ်၍ ငွေကျပ် ၁၀၀,၀၀၀/- (ကျပ် တစ်သိန်း တိတိ)တန် အစုရှယ်ယာပေါင်း (၁၀၀,၀၀၀) ခွဲထားပါ သည်။ ကုမ္ပဏီ ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေ ပြဋ္ဌာန်းချက်များနှင့်အညီ အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိ စေရမည်။

၄။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပါ ပြဋ္ဌာန်းချက်များကို မထိခိုက်စေလျက် အစုရှယ်ယာများသည် ဒါရိုက်တာများ၏ ကြီးကြပ်ကွပ်ကဲမှု အောက်တွင်ရှိစေရမည်။ ၎င်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များ အား သတ်မှတ်ချက် အခြေအနေတစ်စုံတစ်ရာဖြင့် အစုရှယ်ယာများကို ခွဲဝေချထားခြင်း သို့မဟုတ် ထုခွဲရောင်းချခြင်း တို့ကို ဆောင်ရွက်နိုင်သည်။

၅။ အစုရှယ်ယာလက်မှတ်များကို အထွေထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့က သတ်မှတ်သည့် အခြား ပုဂ္ဂိုလ်များက လက်မှတ်ရေးထိုး၍ ကုမ္ပဏီ၏တံဆိပ်ရိုက်နှိပ်ထုတ်ပေးရမည်။ အစုရှယ်ယာ လက်မှတ်သည် ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်း သို့မဟုတ် ပျက်စီးခြင်းဖြစ်ပါက အဖိုးအခဖြင့် ပြန်လည် အသစ်ပြုလုပ်ပေးမှုကို သော်လည်းကောင်း၊ ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော အခြား သက်သေခံ အထောက်အထား တစ်စုံတစ်ရာကို တင်ပြစေ၍ သော်လည်းကောင်း ထုတ်ပေးနိုင်သည်။ ကွယ်လွန်သွားသော အစုရှယ်ယာရှင်တစ်ဦး၏ တရားဝင်ကိုယ်စားလှယ်ကို ဒါရိုက်တာများက အသိအမှတ် ပြုပေးရမည်ဖြစ်သည်။

၆။ ဒါရိုက်တာများသည် အစုရှင်များက ၎င်းတို့၏ အစုရှယ်ယာများအတွက် မပေးသွင်းရသေးသော ငွေများကို အခါအားလျော်စွာ တောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၎င်းတို့ထံတောင်းဆိုသည့် အကြိမ်တိုင်းအတွက် ဒါရိုက်တာများက သတ်မှတ်သည့် ပုဂ္ဂိုလ်များထံ သတ်မှတ်သည့်အချိန်နှင့် နေရာတွင် ပေးသွင်းစေရန် တာဝန်ရှိစေရမည်။ ဆင့်ခေါ်မှုတစ်ခုအတွက် အရစ်ကျပေးသွင်းစေခြင်း၊ သို့မဟုတ် ပယ်ဖျက်ခြင်း သို့မဟုတ် ရွှေ့ဆိုင်းခြင်းတို့ကို ဒါရိုက်တာများက သတ်မှတ်နိုင်သည်။

## ဒါရိုက်တာများ

၇။ သင်းလုံးကျွတ် အစည်းအဝေးက တစ်စုံတစ်ရာသတ်မှတ်ပြဋ္ဌာန်းမှု မပြုလုပ်သမျှ ဒါရိုက်တာများ၏ အရေ အတွက်သည် (၂)ဦးထက်မနည်း (၇) ဦးထက်မများစေရ။

ပထမဒါရိုက်တာများသည် -

(၁) ဦးခင်မောင်အေး

(၂) ဦးကျော်လင်း

(၃)

(၄)

(၅) တို့ဖြစ်ကြပါသည်။

၈။ ဒါရိုက်တာများသည် ၎င်းတို့အနက်မှ တစ်ဦးကို မန်နေဂျင်းဒါရိုက်တာအဖြစ် အချိန်အခါအလိုက် သင့်လျော်သော သတ်မှတ်ချက်များ၊ ဥာဏ်ပူဇော်ခများဖြင့် ခန့်ထားရမည်ဖြစ်ပြီး အခါအားလျော်စွာ ဒါရိုက်တာအဖွဲ့ က ပေးအပ်သော အာဏာများအားလုံးကို ၎င်းကအသုံးပြုနိုင်သည်။

၉။ ဒါရိုက်တာတစ်ဦးဖြစ်မြောက်ရန်လိုအပ်သော အရည်အချင်းသည် ကုမ္ပဏီ၏ အစုရှယ်ယာအနည်းဆုံး ( - ) စုကိုပိုင်ဆိုင်ခြင်းဖြစ်၍ ၎င်းသည် မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေပုဒ်မ ၈၅ ပါ ပြဋ္ဌာန်းချက် များကို လိုက်နာရန် တာဝန်ရှိသည်။

၁၀။ အစုရှယ်ယာများ လွှဲပြောင်းရန် တင်ပြချက်ကို မည်သည့်အကြောင်းပြချက်မျှမပေးဘဲ ဒါရိုက်တာ အဖွဲ့သည် ၎င်းတို့၏ပြည့်စုံ၍ ချုပ်ချယ်ခြင်းကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင် သည်။

## ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ

၁၁။ ဒါရိုက်တာများသည် ၎င်းတို့သင့်လျော်သည် ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန် တွေ့ဆုံ ဆွေးနွေးခြင်း၊ အစည်းအဝေးရွှေ့ဆိုင်းခြင်း၊ အချိန်မှန်စည်းဝေးခြင်း၊ အစည်းအဝေးအထမြောက်ရန် အနည်းဆုံး ဒါရိုက်တာဦးရေ သတ်မှတ်ခြင်းတို့ကို ဆောင်ရွက်နိုင်သည်။ ယင်းသို့ မသတ်မှတ်ပါက ဒါရိုက်တာနှစ်ဦး တက်ရောက်လျှင် အစည်းအဝေးထမြောက်ရမည်။ ~~အစည်းအဝေးတွင် မည်သည့် ပြဿနာမဆို ပေါ်ပေါက် ပါက မန်နေဂျင်းဒါရိုက်တာ၏ အဆုံးအဖြတ်သည် အတည်ဖြစ်ရမည်~~။ မည်သည့် ကိစ္စများကိုမဆို မဲခွဲဆုံးဖြတ် ရာတွင် မဲအရေအတွက်တူနေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးနိုင်သည်။

၁၂။ ဒါရိုက်တာများ၏ အစည်းအဝေးကို မည်သည့်ဒါရိုက်တာကမဆို အချိန်မရွေး ခေါ်နိုင်သည်။

၁၃။ ဒါရိုက်တာအားလုံးက လက်မှတ်ရေးထိုးထားသော ရေးသားထားသည့်ဆုံးဖြတ်ချက်တစ်ရပ်သည် နည်းလမ်းတကျ ခေါ်ယူကျင်းပသော အစည်းအဝေးက အတည်ပြုသည့် ဆုံးဖြတ်ချက်ကဲ့သို့ပင် ကိစ္စအားလုံးအတွက် အကျိုးသက်ရောက်စေရမည်။

## ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့်တာဝန်များ

၁၄။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေနောက်ဆက်တွဲဇယားပုံစံ (က)ပါ စည်းမျဉ်းအပိုဒ် ၇၁ တွင် ပေးအပ် ထားသော အထွေထွေအာဏာများကို မထိခိုက်စေဘဲဒါရိုက်တာများသည် အောက်ဖော်ပြပါ အာဏာများ ရှိရမည်ဟု အတိအလင်း ထုတ်ဖော်ကြေညာသည်။ အာဏာဆိုသည်မှာ -

(၁) ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆသော တန်ဖိုးနှင့်စည်းကမ်းများ၊ အခြေအနေများ သတ်မှတ်၍ ကုမ္ပဏီကရယူရန်အာဏာရှိသည့် မည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်း များကိုမဆိုဝယ်ယူရန် သို့မဟုတ် အခြားနည်းလမ်းများဖြင့်ရယူပိုင်ဆိုင်ရန်အပြင် ကုမ္ပဏီက ပိုင်ဆိုင်ခွင့်ရှိသော မည်သည့်ပစ္စည်း အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆို သင့်တော်သော စည်းကမ်းချက်များသတ်မှတ်၍ ရောင်းချခြင်း၊ အငှားချခြင်း၊ စွန့်လွှတ်ခြင်း၊ သို့မဟုတ် အခြား နည်းလမ်းများဖြင့် ဆောင်ရွက်ခြင်းတို့ကို ပြုလုပ်ရန်။

(၂) သင့်လျော်သောစည်းကမ်းသတ်မှတ်ချက်များဖြင့် ငွေကြေးများကိုချေးငှားရန် သို့မဟုတ်အဆိုပါ ချေးငှားသော ငွေကြေးများကို ပြန်လည်ပေးဆပ်ရန်အတွက် အာမခံများထားရှိရန်အပြင် အထူးသဖြင့် ဤကုမ္ပဏီ၏ ဒီဘင်ချာများ၊ ဒီဘင်ချာစတော့(ခ်)များ၊ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ယခုလက်ရှိနှင့်နောင်ရှိမည့် ပစ္စည်းများအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ ထုတ်ဝေရန်။

(၃) ဤကုမ္ပဏီက ရယူထားသော အခွင့်အရေးများ သို့မဟုတ် ဝန်ဆောင်မှုများအတွက် အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ငွေကြေးအားဖြင့် ပေးချေရန်၊ သို့မဟုတ် အစုရှယ်ယာများ၊ ငွေချေး စာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ဤကုမ္ပဏီ၏ အခြားသော အာမခံစာချုပ်များကို ထုတ်ပေးရန်၊ ထို့အပြင် အဆိုပါ အစုရှယ်ယာများ ထုတ်ပေးရာ၌ ငွေအပြည့် ပေးသွင်းပြီးသော အစုရှယ်ယာအနေဖြင့် သော် လည်းကောင်း၊ တစ်စိတ်တစ်ဒေသ ပေးသွင်းပြီးသော အစုရှယ်ယာများ အနေဖြင့်သော်လည်းကောင်း သဘောတူညီသကဲ့သို့ ထုတ်ဝေပေးရန်နှင့် အဆိုပါ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ကုမ္ပဏီ၏ အခြားသော အာမခံ စာချုပ်များဖြင့် ထုတ်ဝေပေးရာ၌ ခေါ်ဆိုခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ဖြစ်စေ၊ ထိုကဲ့သို့မဟုတ်ဘဲ ဖြစ်စေ ထုတ်ပေးရန်။

(၄) ဤကုမ္ပဏီနှင့် ပြုလုပ်ထားသော ကန်ထရိုက်စာချုပ်များ၊ တာဝန်ယူထားသည့် လုပ်ငန်းများ ပြီးစီးအောင် ဆောင်ရွက်စေခြင်း အလို့ငှာ ခေါ်ယူခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းရပ်များ အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ပေါင်နှံ၍ သော်လည်းကောင်း၊ အပေါင်ပြု၍ သော်လည်းကောင်း သို့မဟုတ် အစုရှယ်ယာများအတွက် ငွေများ တောင်းခံခေါ်ယူ၍ သော် လည်းကောင်း ခွင့်ပြုရန် သို့မဟုတ် သင့်လျော်သည့်အတိုင်း ဆောင်ရွက်ရန်။

(၅) မန်နေဂျာများ၊အတွင်းရေးမှူးများ၊ အရာရှိများ၊ စာရေးများ၊ ကိုယ်စားလှယ်များနှင့် ဝန်ထမ်းများကို အမြဲတမ်း၊ ယာယီ သို့မဟုတ် အထူးကိစ္စရပ်များအတွက် ခန့်ထားခြင်း၊ ရပ်စဲခြင်း၊ ဆိုင်းငံ့ခြင်းများအတွက် လည်းကောင်း၊ အဆိုပါ ပုဂ္ဂိုလ်တို့၏ တာဝန်များ၊ အာဏာများ၊ လစာငွေများ၊ အခြား ငွေကြေးများကို သတ်မှတ်ရာ၌ လည်းကောင်း၊ အာမခံပစ္စည်းများ တောင်းခံရာ၌ လည်းကောင်း သင့်လျော်သလို ဆောင်ရွက်ရန်၊ ထို့အပြင် အဆိုပါ ကိစ္စရပ်များအတွက် ကုမ္ပဏီ၏ မည်သည့် အရာရှိကို မဆို ကိစ္စရပ်အားလုံးကို ဖြစ်စေ၊ တစ်စိတ်တစ်ဒေသကို ဖြစ်စေ ဒါရိုက်တာများ၏ ကိုယ်စား ဆောင်ရွက်နိုင်ရေးအတွက် တာဝန်လွှဲအပ်ရန်။

(၆) ဤကုမ္ပဏီ၏ ဒါရိုက်တာတစ်ဦးအား ဒါရိုက်တာရာထူးနှင့် တွဲဖက်၍ မန်နေဂျင်း ဒါရိုက်တာ၊ အထွေထွေ မန်နေဂျာ၊ အတွင်းရေးမှူး သို့မဟုတ် ဌာနခွဲ မန်နေဂျာအဖြစ် ခန့်ထားရန်။

(၇) မည်သည့် အစုရှင်ထံမှမဆို ၎င်းတို့၏ အစုရှယ်ယာများအားလုံးကို ဖြစ်စေ၊ အချို့အဝက်ကိုဖြစ်စေ၊ စွန့်လွှတ်ခြင်းအား သဘောတူညီသော စည်းကမ်းများဖြင့် လက်ခံရန်။

(၈) ဤကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြားအကြောင်းများကြောင့် ဖြစ်သော မည်သည့် ပစ္စည်းကိုမဆို ကုမ္ပဏီ၏ကိုယ်စား လက်ခံထိန်းသိမ်းထားရန်အတွက် မည်သည့်ပုဂ္ဂိုလ် သို့မဟုတ် ပုဂ္ဂိုလ်များကိုမဆို ခန့်ထားရန်နှင့် အဆိုပါယုံမှတ်အပ်နှံခြင်းများနှင့်ပတ်သက်၍လိုအပ်သော စာချုပ်စာတမ်းများ ချုပ်ဆိုပြုလုပ်ရန်။

(၉) ဤကုမ္ပဏီ၏ အရေးအရာများနှင့် စပ်လျဉ်း၍ ဤကုမ္ပဏီက ပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီအပေါ် သို့မဟုတ် ဤကုမ္ပဏီ၏ အရာရှိများအပေါ် ပြုလုပ်သော တရားဥပဒေအရ စွဲဆိုဆောင်ရွက်မှုများကို တရားစွဲဆို၊ အရေးယူ၊ ခုခံကာကွယ်ရန် သို့မဟုတ် ခွင့်လွှတ်ရန်၊ ထို့အပြင် ဤကုမ္ပဏီက ရရန်ရှိသော ကြွေးမြီများနှင့် ဤကုမ္ပဏီအပေါ် တောင်းခံသော ကြွေးမြီများနှင့် ပတ်သက်၍ ပေးဆပ်ရန် အချိန်ကာလ ရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက် သဘောတူ ကျေအေးခြင်းများ ပြုလုပ်ရန်။

(၁၀) ဤကုမ္ပဏီက ပေးရန်ရှိသော သို့မဟုတ် ရရန်ရှိသော ငွေတောင်းခံခြင်းများကို ဖြန်ဖြေရေး ခုံသမာဓိ ထံသို့ ဖြေရှင်းရန်အတွက် အပ်နှံရန်အပြင် ဖြန်ဖြေရေး ခုံသမာဓိ၏ ဆုံးဖြတ်ချက်အတိုင်း လိုက်နာ ဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီက ရရန်ရှိသော တောင်းဆိုချက်၊ တောင်းခံချက်များနှင့် ကုမ္ပဏီသို့ ပေးရန်ရှိသော ငွေကြေးများ အတွက် ပြေစာများပြုလုပ်ထုတ်ပေးခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားသောနည်းဖြင့် စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(၁၂) လူမွဲစာရင်းခံရခြင်း၊ ကြွေးမြီ မဆပ်နိုင်ခြင်း ကိစ္စများနှင့် ပတ်သက်၍ ကုမ္ပဏီ၏ကိုယ်စား ဆောင်ရွက်ရန်။

(၁၃) ငွေလွှဲစာတမ်းများ၊ ချက်လက်မှတ်များ၊ ဝန်ခံကတိစာချုပ်များ၊ ထပ်ဆင့်လက်မှတ်ရေးထိုးခြင်းများ၊ လျှော်ပစ်ခြင်းများ၊ ကန်ထရိုက် စာချုပ်များနှင့် စာရွက်စာတမ်းများကို ကုမ္ပဏီ၏ ကိုယ်စား မည်သူက လက်မှတ် ရေးထိုးခွင့်ရှိသည်ကို စိစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆပါက သင့်လျော် လျောက်ပတ်သော နည်းလမ်းများဖြင့် လတ်တလော အသုံးပြုရန် မလိုသေးသော ကုမ္ပဏီပိုင်ငွေများကို အာမခံပစ္စည်း ပါသည်ဖြစ်စေ၊ မပါသည်ဖြစ်စေ၊ ရင်းနှီးမြှုပ်နှံ ထားရန်နှင့် စီမံခန့်ခွဲထားရန်။ ထို့အပြင် အချိန်ကာလ အားလျော်စွာ မြှုပ်နှံထားသောငွေကို ပြန်လည်ရယူရန် နှင့် ပြင်ဆင်ပြောင်းလွှဲရန်။

(၁၅) ဤကုမ္ပဏီ၏ အကျိုးအတွက် ငွေကြေး စိုက်ထုတ် ကုန်ကျခံထားသော ဒါရိုက်တာ သို့မဟုတ် အခြား ပုဂ္ဂိုလ်များက ကုမ္ပဏီ၏ (လက်ရှိနှင့် နောင်တွင် ရှိမည့်) ပစ္စည်းများကို ဤကုမ္ပဏီ၏ အမည်ဖြင့် ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ ပေါင်နှံခြင်းကို သင့်လျော်သည်ဟု ယူဆပါက ဆောင်ရွက်ခွင့်ပြုရန်။ အဆိုပါ ပေါင်နှံခြင်းဆိုရာ၌ ရောင်းချနိုင်သည့် အာဏာနှင့် အခြားသော သဘောတူညီထားသည့် တရားဝင် သဘောတူညီချက်များနှင့် ဥပဒေပြဋ္ဌာန်းချက်များပါ ပါဝင်သည်။

(၁၆) ဤကုမ္ပဏီက ခန့်အပ်ထားသော မည်သည့်အရာရှိ သို့မဟုတ် ပုဂ္ဂိုလ်ကိုမဆို အတိအကျဆောင်ရွက်ခဲ့သည့် လုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက် ရရှိသော အမြတ်ငွေမှ ကော်မရှင်ပေးခြင်း သို့မဟုတ် ကုမ္ပဏီ၏ အထွေထွေ အမြတ်အစွန်းမှ ခွဲဝေပေးခြင်းများ ပြုလုပ်ရန်နှင့် အဆိုပါ ကော်မရှင်များ၊ အမြတ်များ ခွဲဝေပေးခြင်း စသည်တို့ကို ဤကုမ္ပဏီ၏ လုပ်ငန်းကုန်ကျစရိတ် တစ်စိတ်တစ်ဒေသအဖြစ် သတ်မှတ်ရန်။

(၁၇) ဤကုမ္ပဏီ၏ လုပ်ငန်းများ၊ အရာရှိများ၊ ဝန်ထမ်းများနှင့် အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဉ်းများ၊ စည်းကမ်းချက်များ၊ စည်းကမ်းဥပဒေများကို အခါအားလျော်စွာ သတ်မှတ်ခြင်း၊ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်းများ ဆောင်ရွက်ရန်။

(၁၈) ဤကုမ္ပဏီ၏လုပ်ငန်းအတွက် ဤကုမ္ပဏီ၏အမည်ဖြင့် ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ လိုအပ်သည်ဟု ယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့် ကန်ထရိုက်စာချုပ် ချုပ်ဆိုခြင်းများကို ပြုလုပ်ရန်၊ ဖျက်သိမ်းရန်နှင့် ပြင်ဆင်ရန်အပြင် အဆိုပါ ဆောင်ရွက်ချက် စာချုပ်များနှင့် ကိစ္စရပ်များကို လည်းကောင်း၊ ၎င်းတို့နှင့် စပ်လျဉ်းသော ကိစ္စရပ်များကို လည်းကောင်း လုပ်ကိုင်ဆောင်ရွက်ရန်။

(၁၉) ဒါရိုက်တာများက သင့်လျော်လျောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့် ပြည်တွင်းပြည်ပ ပုဂ္ဂိုလ်၊ စီးပွားရေး အဖွဲ့အစည်း၊ ကုမ္ပဏီ သို့မဟုတ် ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှမဆို ငွေချေးယူရန်။

## အထွေထွေအစည်းအဝေးကြီးများ

၁၅။ ကုမ္ပဏီကို ဥပဒေအရဖွဲ့စည်းတည်ထောင်ပြီးသည့်နေ့မှ တစ်ဆယ့်ရှစ်လအတွင်းအထွေထွေသင်းလုံးကျွတ် အစည်းအဝေးကြီးကို ကျင်းပရမည်။ ထို့နောက် ဒါရိုက်တာအဖွဲ့က သတ်မှတ်ပေးသည့် အချိန်နှင့် နေရာများတွင် ပြက္ခဒိန်နှစ်တစ်နှစ်လျှင် အနည်းဆုံးတစ်ကြိမ် (နောက်ဆုံးကျင်းပသည့် အထွေထွေအစည်းအဝေးကြီးနှင့် တစ်ဆယ့်ငါးလထက် မပိုသည့်အချိန်၌) ကျင်းပရမည်။ သင်းလုံးကျွတ် အစည်းအဝေးစတင်၍လုပ်ငန်းအတွက် ဆွေးနွေးချိန်တွင် အစည်းအဝေး အထမြောက်ရန် သတ်မှတ်သည့် အစုရှင် အရေအတွက် မတက်ရောက်သော မည်သည့် သင်းလုံးကျွတ် အစည်းအဝေးတွင် မဆို လုပ်ငန်းနှင့် ပတ်သက်၍ ဆုံးဖြတ်ဆောင်ရွက်ခြင်း မပြုရ။ ဤတွင် အခြားနည်း သတ်မှတ်ပြဋ္ဌာန်းခြင်း မရှိလျှင် ထုတ်ဝေထားသည့် မ,တည် ရင်းနှီးငွေ အစုရှယ်ယာများ၏ ငါးဆယ်ရာခိုင်နှုန်းထက်မနည်း ပိုင်ဆိုင်ကြသည့် (နှစ်ဦးထက် မနည်းသော) အစုရှင်များ ကိုယ်တိုင် တက်ရောက်လျှင် လုပ်ငန်းကိစ္စအားလုံး ဆောင်ရွက်ရန် အတွက် အစည်းအဝေး အထမြောက်သည့်ဦးရေ ဖြစ်သည်။ အကယ်၍ ကုမ္ပဏီတွင် အစုရှင်အရေအတွက် နှစ်ဦးတည်းသာ ရှိသည့်ကိစ္စတွင်မူထိုနှစ်ဦးတည်းသည်ပင်လျှင်အစည်းအဝေးအထမြောက်ရန်သတ်မှတ်သည့် အရေအတွက်ဖြစ်စေရမည်။

## အမြတ်ဝေစုများ

၁၆။ သင်းလုံးကျွတ်အစည်းအဝေးတွင် ဤကုမ္ပဏီ၏ အစုရှင်များအား ခွဲဝေပေးမည့် အမြတ်ဝေစုကို ကြေညာရမည်။ သို့ရာတွင် အမြတ်ဝေစုသည် ဒါရိုက်တာများက ထောက်ခံသော ငွေပမာဏထက် မကျော်လွန်စေရ။ သက်ဆိုင်ရာ နှစ်၏ အမြတ်ပမာဏ သို့မဟုတ် အခြားမခွဲဝေရသေးသည့် အမြတ်ပမာဏမှအပ အမြတ်ဝေစုကို ခွဲဝေမပေးရ။

## ရုံးဝန်ထမ်းများ

၁၇။ ကုမ္ပဏီသည် လုပ်ငန်းရုံးတစ်ခုကို ဖွင့်လှစ်၍ ဆောင်ရွက်မည်ဖြစ်ပြီး ~~အရည်အချင်း ပြည့်မီသူပုဂ္ဂိုလ်တစ်ဦးအား အထွေထွေမန်နေဂျာအဖြစ် ခန့်အပ်ရန်နှင့် အခြား~~ အရည်အချင်း ပြည့်မီသူများအား ရုံးဝန်ထမ်းများအဖြစ် ခန့်အပ်မည် ဖြစ်သည်။ လစာ၊ ခရီးသွားလာစရိတ်နှင့် အခြားအသုံးစရိတ်များ ကဲ့သို့သော ဥာဏ်ပူဇော်ခများနှင့် အခကြေးငွေများကို ဒါရိုက်တာအဖွဲ့က သတ်မှတ်~~မည်ဖြစ်ပြီး ၎င်းသတ်မှတ်ချက်များကို သင်းလုံးကျွတ် အစည်းအဝေးက အတည်ပြု~~ရမည်။ ~~အထွေထွေမန်နေဂျာသည် လုပ်ငန်းရုံး၏ ထိရောက်စွာလုပ်ငန်း လည်ပတ်မှု အားလုံးအတွက် တာဝန်ရှိစေရမည် ဖြစ်ပြီး မန်နေဂျင်း ဒါရိုက်တာအား တာဝန်ခံ၍ ဆောင်ရွက်ရမည်~~။

## ငွေစာရင်းများ

၁၈။ ဒါရိုက်တာများသည် သင့်လျော်သည့် ငွေစာရင်းစာအုပ်များကို အောက်ဖော်ပြပါ သတ်မှတ်ချက်များနှင့်အညီ ထားသို ထိန်းသိမ်း ဆောင်ရွက်ရမည်။

(၁) ကုမ္ပဏီ၏ ရငွေ၊ သုံးငွေများ၏ ပမာဏနှင့် ၎င်းရငွေ၊ သုံးငွေများ ဖြစ်ပေါ်ခြင်းနှင့် စပ်လျဉ်းသည့် အကြောင်းကိစ္စများ။

(၂) ကုမ္ပဏီ၏ ကုန်ပစ္စည်းများ ရောင်းချခြင်းနှင့် ဝယ်ယူခြင်းများ။

(၃) ဤကုမ္ပဏီ၏ ရရန်ပိုင်ခွင့်နှင့် ပေးရန်တာဝန်များ။

၁၉။ ငွေစာရင်းစာအုပ်အားလုံးကို ဤကုမ္ပဏီ၏ မှတ်ပုံတင်ထားသော လုပ်ငန်းရုံး သို့မဟုတ် ဒါရိုက်တာများက သင့်လျော်သည်ဟု ထင်မြင်ယူဆသော အခြားနေရာတွင် သိမ်းဆည်းထားရမည်ဖြစ်ပြီး၊ ရုံးချိန်အတွင်း၌ ဒါရိုက်တာများက စစ်ဆေးနိုင်ရန် ပြသထားရမည်။

## စာရင်းစစ်

၂၀။ စာရင်းစစ်များကို ခန့်အပ်ထားရမည်။ ၎င်းစာရင်းစစ်များ၏ တာဝန်သည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ သို့မဟုတ် အခါအားလျော်စွာ ပြင်ဆင်သတ်မှတ်သည့် စည်းမျဉ်း စည်းကမ်းများနှင့် လိုက်လျောညီထွေ ဖြစ်ရမည်။

## နို့တစ်စာ

၂၁။ ဤကုမ္ပဏီသည် မည်သည့်အစုရှင်ထံသို့မဆို နို့တစ်စာကို လက်ရောက်ပေးအပ်ခြင်း သို့မဟုတ် နို့တစ်စာပါသော စာကို စာတိုက်ခ ကြိုတင်ပေးထား၍ ၎င်းအစုရှင်ထံ မှတ်ပုံတင်လိပ်စာအတိုင်း စာတိုက်မှတစ်ဆင့် လိပ်မူ ပေးပို့ခြင်းအားဖြင့် ပေးပို့နိုင်သည်။

## တံဆိပ်

၂၂။ ဒါရိုက်တာများသည် တံဆိပ်ကို လုံခြုံစွာ ထိန်းသိမ်းထားရန်အတွက် စီမံဆောင်ရွက်ရမည်။ ထိုတံဆိပ်ကို ဒါရိုက်တာများက ကြိုတင်ပေးအပ်ထားသည့် ခွင့်ပြုချက်ဖြင့် မှတစ်ပါး၊ ထို့အပြင် အနည်းဆုံး ဒါရိုက်တာတစ်ဦး ရှေ့မှောက်တွင်မှ တစ်ပါး မည်သည့်အခါမျှ မသုံးရ။ တံဆိပ်ရိုက်နှိပ်ထားသည့် စာရွက်စာတမ်းတိုင်းတွင် ထိုဒါရိုက်တာက လက်မှတ်ရေးထိုးရမည်။

## လျော်ကြေး

၂၃။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ ၈၆ (ဂ) တွင် ဖော်ပြပါရှိသည့် ပြဋ္ဌာန်းချက်များ၊ လက်ရှိတရားဝင် တည်ဆဲဥပဒေပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ ကုမ္ပဏီ၏ ဒါရိုက်တာ၊ စာရင်းစစ်၊ အတွင်းရေးမှူး သို့မဟုတ် အခြားအရာရှိတစ်ဦးဦးမှာ မိမိ၏ တာဝန်ဝတ္တရားများကို ဆောင်ရွက်ရာ၌ဖြစ်စေ၊ ထိုတာဝန် ဝတ္တရားများနှင့် စပ်လျဉ်း၍ ဖြစ်စေ ကျခံခဲ့ရသည့် စရိတ်များ၊ တောင်းခံငွေများ၊ ဆုံးရှုံးငွေများ၊ ကုန်ကျငွေများနှင့် ကြွေးမြီတာဝန် များအတွက် ကုမ္ပဏီထံမှ လျော်ကြေး ရထိုက်ခွင့် ရှိစေရမည်။

## ဖျက်သိမ်းခြင်း

၂၄။ ကုမ္ပဏီ၏ အထွေထွေအစည်းအဝေး ဆုံးဖြတ်ချက်ဖြင့် ကုမ္ပဏီအား ဖျက်သိမ်းနိုင်သည်။ ယင်းသို့ ဖျက်သိမ်းရာတွင် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေများနှင့် ယင်းဥပဒေများအား အခါအားလျော်စွာ ပြင်ဆင်ပြောင်းလဲ ထားသည့် တရားဥပဒေများတွင် ပါဝင်သည့် စည်းမျဉ်းများအတိုင်း လိုက်နာပြုလုပ်ရမည်။

❖ ❖ ❖ ❖ ❖ ❖ ❖

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ် နှင့် အကြောင်းအရာ စုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့စည်းမျဉ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင် ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာ နှင့်အလုပ်အကိုင် | နိုင်ငံသား နှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁။ | ဦးခင်မောင်အေး<br><br>အမှတ် (၁၈)၊ ဦးဘဟန်လမ်း၊<br>သဃ်န်းကျွန်းမြို့နယ်၊ ရန်ကုန်မြို့။<br><br>ကုန်သည် | မြန်မာ<br><br>၇/တငန(နိုင်)<br>၀၆၆၃၅၇ | ၉၈ | |
| ၂။ | ဒေါ်ဝင့်ရည်အေး<br><br>အမှတ် (၁၈)၊ ဦးဘဟန်လမ်း၊<br>သဃ်န်းကျွန်းမြို့နယ်၊ ရန်ကုန်မြို့။<br><br>ကုန်သည် | မြန်မာ<br><br>၁၂/ကမရ(နိုင်)<br>၀၃၅၇၅၁ | ၁ | |
| ၃။ | ဦးကျော်လင်း<br><br>တိုက်(၁)၊ အခန်း (၃၀၁)၊ သီရိမင်္ဂလာဥယျာဉ်<br>အိမ်ရာ၊ လွတ်လပ်ရေး ရပ်ကွက်၊<br>အလုံမြို့နယ်၊ ရန်ကုန်မြို့။<br><br>ကုန်သည် | မြန်မာ<br><br>၁၂/သဃက(နိုင်)<br>၀၆၁၃၂၈ | ၁ | |

ရက်စွဲ။ နေ့စွဲ ၂၀၀၇ ခုနှစ်၊ ဇူလိုင်လ ( ) ရက်။

အထက်ပါ လက်မှတ်ရှင်များသည် ကျွန်ုပ်၏ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

DAW KHIN MAR MAR [illegible]
Supreme Court Advocate
Legal Consultant

